ပြည်ထောင်စုမြန်မာနိုင်ငံတော်

# ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ



| | |
|---|---|
| ၂၀၀၇/၂၀၀၈ ခုနှစ် သုံးမြေပုံမှ ရေးကူး ပေးသည့် မှန်ကန်ကြောင်း သက်သေခံသည့် မိတ္တူမြေပုံ | |
| အမည်ပေါက် | |
| မြေတိုင်းရပ်ကွက်အမှတ် | |
| လူနေရပ်ကွက်အမှတ် | – |
| မြေကွက်အမှတ် | |
| မြေအမျိုးအစား | |
| ဧရိယာ | |
| မြို့နယ် | |
| စကေး | |
| လျှောက်ထားသည့်အကြောင်းအရာ | |

ပြည်ထောင်စုမြန်မာနိုင်ငံတော် ရုံးခုံဘိုးတံဆိပ်ခေါင်း K2

ပြည်ထောင်စုမြန်မာနိုင်ငံတော် ရုံးခုံဘိုးတံဆိပ်ခေါင်း K2

၂၀၀၇/၂၀၀၈ ခုနှစ်သုံးမြေပုံ/မြို့မြေစာရင်းမှ ရေးကူးသော ကောက်နုတ်ချက် မိတ္တူ မြေပုံ/မြေရာစပ်မြေပုံ၌ ထိုကျ မှန်ကန်ကြောင်း ထောက်ခံပါသည်။

( မြို့မြေ/မြေယာဌာန )

လှအောင်
အင်ဂျင်နီယာမှူး
ကုန်လမ်းပို့ဆောင်ရေး

မိတ္တူမှန်

ရထားပို့ဆောင်ရေးဝန်ကြီးဌာန
ကုန်းလမ်းပို့ဆောင်ရေး

နှင့်

စန်းရောင်နီကုမ္ပဏီ လီမိတက်

တို့၏

# ဖက်စပ်သဘောတူစာချုပ်




# ကုန်းလမ်းပို့ဆောင်ရေးနှင့်
# စန်းရောင်နီ ကုမ္ပဏီလီမိတက် တို့၏
# ဖက်စပ်သဘောတူစာချုပ်

ဤဖက်စပ်သဘောတူစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ နေပြည်တော်တွင် ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ( ၁၄ )ရက်နေ့တွင် ဦးဆောင်ညွှန်ကြားရေးမှူး ဦးစန်းမြင့်ဦး ကိုယ်စားပြုသော ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ကုန်းလမ်းပို့ဆောင်ရေး၊ နေပြည်တော်ရုံးအမှတ်(၂၉) (နောင်တွင် ကုန်းလမ်းပို့ဆောင်ရေးဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်းအားဆက်ခံသူများ၊ ဥပဒေအရ လွှဲပြောင်းခြင်းခံရသူများ ပါဝင်သည်) က တစ်ဖက်

နှင့်

မန်နေးဂျင်းဒါရိုက်တာ ဦးအောင်ကျော်မြင့် မှတ်ပုံတင်အမှတ် ၉/မရမ(နိုင်)၀၇၇၀၉၁ ကိုယ်စားပြုသော(**စန်းရောင်နီကုမ္ပဏီလီမိတက်**) မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းထား၍ ၎င်းကုမ္ပဏီ၏ မှတ်ပုံတင်အမှတ် ၁၀၇၁/၂၀၀၇-၂၀၀၈ရက်စွဲ(၂၇. ၁၂. ၂၀၀၇) ဖြစ်ပြီး ၎င်း၏ပင်မရုံးကို အမှတ်(၆၉/၁၃၁) မဟာဗန္ဓုလလမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့၌ တည်ရှိသော (နောင်တွင် **"စန်းရောင်နီကုမ္ပဏီလီမိတက်"** ဟုခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်းအား ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်)က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များနှင့်အညီ နှစ်ဘက်သဘောတူစာချုပ် ချုပ်ဆို ကြပါသည်။

## အပိုဒ်(၁) ရည်ရွယ်ချက်

၁-၀၁ ကုန်းလမ်းပို့ဆောင်ရေးနှင့် **"စန်းရောင်နီကုမ္ပဏီလီမိတက်"** တို့သည်ဖက်စပ်ကုမ္ပဏီ တည်ထောင်ပြီး

(က) မြို့တွင်းပြေးဘတ်စ်ကား (City Buses) များတည်ထောင်ပြေးဆွဲခြင်း။

(ခ) စီးလုံးငှားယာဉ်(Rental Service)၊ သင်တန်းကျောင်းသုံးအငှားယာဉ်(Trainning Taxi)နှင့် အငှားယာဉ် (Taxi)များ လုပ်ငန်း ထူထောင် ပြေးဆွဲခြင်း။

(ဂ) မော်တော်ယာဉ်ပြင်ဆင်ထိန်းသိမ်းရေး နှင့် စစ်ဆေးရေး အလုပ်ရုံများဖွင့်လှစ်ဆောင်ရွက်ခြင်း။

(ဃ) နိုင်ငံတကာ အဆင့်မှီ အဆင့်မြင့် (Bus Terminal) များ တည်ဆောက်ခြင်း။

(င) ပို့ဆောင်ရေးအတွက် လိုအပ်သော လောင်စာဆီအပါအဝင် ပို့ဆောင်ရေးနှင့် ဆက်နွယ်သော လုပ်ငန်းများအားလုံးကို ဖွင့်လှစ်ခြင်း၊ ငှားရမ်းခြင်း လုပ်ငန်းများကို ဆောင်ရွက်ရန်နှင့် ယာဉ်အပိုပစ္စည်းများ ပြည်ပမှတင်သွင်း လုပ်ကိုင်ရန် သဘောတူညီခဲ့ပါသည်။ နောင်တွင် ၎င်းစီမံကိန်းကို(Project)ဟု ခေါ်ဆိုသုံးနှုန်းပါမည်။

၁-၀၂ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည်**"စန်းရောင်နီကုန်းလမ်းပို့ဆောင်ရေး ကုမ္ပဏီလီမိတက်"** အမည်ဖြင့် ဖက်စပ်ကုမ္ပဏီ(နောင်တွင်**"ကုမ္ပဏီ"**ဟုခေါ်ဆိုရန်)ကို အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီအဖြစ် ၁၉၁၄ ခုနှစ် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေနှင့် ၁၉၅၀ ပြည့်နှစ် အထူးကုမ္ပဏီအက်ဥပဒေနှင့်အညီ အထက်ပါလုပ်ငန်းများဆောင်ရွက်ရန်အတွက် ဖွဲ့စည်းရန် ရည်ရွယ်ထားပါသည်။

၁-၀၃ နှစ်ဦးနှစ်ဖက်တို့သည် ဖက်စပ်ကုမ္ပဏီ ဖွဲ့စည်းရန်၊ အစုရှယ်ယာထည့်ဝင်ရန်၊ စီမံအုပ်ချုပ်ရန်၊ လုပ်ငန်းလုပ်ဆောင်ရန်နှင့် နှစ်ဖက်အသီးသီး၏ ရပိုင်ခွင့်များ၊ တာဝန်များနှင့်အခြားနည်းလမ်းဖြင့် ရင်းနှီးရန်တို့ကို သဘောတူထားပြီးဖြစ်ပါသည်။

၁-၀၄ ဖက်စပ်လုပ်ငန်းနှင့် စပ်လျဉ်း၍ ကုမ္ပဏီ၏ နှစ်ဦးနှစ်ဖက် စီမံခန့်ခွဲရန်ကိစ္စများအတွက် တရားဥပဒေဘောင်အတွင်း အောက်ပါအတိုင်း ဆောင်ရွက်ရန် သဘောတူကြပါသည်-

## အပိုဒ်(၂) အဓိပ္ပါယ်ဖွင့်ဆိုချက်

အကြောင်းခြင်းရာများတွင် စဉ်းစားရန်ကိစ္စများမှအပ ဤသဘောတူညီချက် (သို့မဟုတ်) ဖွင့်ဆိုချက်များတွင် စကားရပ်များကို အောက်ပါအတိုင်း အဓိပ္ပါယ်ဖွင့်ဆိုရမည်-

၂-၀၁ **"စာချုပ်ဝင်"**(Party) ဆိုသည်မှာ ကုန်းလမ်းပို့ဆောင်ရေးနှင့် (သို့မဟုတ်) **" စန်းရောင်နီကုမ္ပဏီလီမိတက်"**တို့ဖြစ်သည်။ "စာချုပ်ဝင်များ"(Parties)ဆိုသည်မှာ နှစ်ဘက် စာချုပ်ဝင်များကို ခေါ်ဆိုခြင်းဖြစ်ပါသည်။

၂-၀၂ ဖက်စပ်လုပ်ငန်း Joint Venture Operation ဆိုသည်မှာ ကုန်းလမ်းပို့ဆောင်ရေးလုပ်ငန်းအတွက် မြို့တွင်းပြေးဘတ်စ်ကား (City Buses)၊ မော်တော်ယာဉ်ပြင်ဆင်ထိန်းသိမ်းရေးနှင့်စစ်ဆေးရေးအလုပ်ရုံများ ဖွင့်လှစ်ဆောင်ရွက်ခြင်း၊ စီးလုံးငှားယာဉ်(Rental Service)၊ အငှားယာဉ်(Taxi)နှင့် ယာဉ်မောင်းသင်တန်းသုံး အငှားယာဉ်လုပ်ငန်း ထူထောင်ပြေးဆွဲခြင်း၊ နိုင်ငံတကာအဆင့်မှီ အဆင့်မြင့် မော်တော်ယာဉ် ရပ်နားစခန်း(Bus Terminal)များ တည်ဆောက် လုပ်ကိုင်ခြင်းအတွက် ဤသဘောတူညီချက်နှင့်အညီ ဆောင်ရွက်ခြင်း ကို ဆိုလိုသည်။

၂. ၀၃ **Shares(ရှယ်ယာ)**ဆိုသည်မှာ ဖက်စပ်ကုမ္ပဏီမှ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်၏ ထည့်ဝင်မှုမူရင်းတန်ဖိုးအရ မဲပေးပိုင်ခွင့်အပါအဝင် ၎င်းတို့အသီးသီးထည့်ဝင်မှု အချိုးအစားနှင့်အညီ ထုတ်ပေးထားခြင်းကို ဆိုလိုသည်။

၂-၀၄ **ဒါရိုက်တာအဖွဲ့၏ ပထမအစည်းအဝေးဆိုသည်မှာ** နှစ်ဖက်အဖွဲ့အစည်းများ ကုမ္ပဏီ၏ အစုရှယ်ယာများပေးသွင်းရန် အစုရှယ်ယာများထုတ်ဝေခြင်း၊ ပေးအပ်ခြင်းနှင့် မှတ်ပုံတင်ရန်အတွက် အပိုဒ် (၃)နှင့်အညီ ဆောင်ရွက်ရန် ခေါ်ဆိုသော အစည်းအဝေးကို ဆိုလိုသည်။

၂၀၅ **ဒါရိုက်တာအဖွဲ့ပထမအစည်းအဝေးကျင်းပရာနေ့ဆိုသည်မှာ** ပထမဒါရိုက်တာအဖွဲ့ အစည်းအဝေးကျင်းပသည့်နေ့ကို ဆိုလိုသည်။

၂-၀၆ **ဒါရိုက်တာအဖွဲ့** ဆိုသည်မှာ အပိုဒ်(၈)နှင့်အညီ နှစ်ဦးနှစ်ဖက်မှ အဆိုပြုထားသော ပုဂ္ဂိုလ်များဖြင့် ဖွဲ့စည်းထားသော ကုမ္ပဏီအုပ်ချုပ်ရေးအဖွဲ့ကို ဆိုလိုသည်။

၂-၀၇ **အာဏာသက်ရောက်သည့်နေ့** ဆိုသည်မှာ အပိုဒ် (၁၉-၀၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ ဤသဘောတူညီချက် အာဏာသက်ရောက်စေရေးအတွက် ဖက်စပ်စာချုပ်တွင် လက်မှတ်ရေးထိုးသောရက်ကို ဆိုလိုသည်။

## အပိုဒ်(၃)     ဖက်စပ်လုပ်ငန်းလုပ်ဆောင်ခြင်း

၃-၀၁ စာချုပ်ဝင်များသည် ၎င်းတို့၏အရင်းအနှီးများ၊ လုပ်အားများကို ပူးပေါင်း၍ **" စန်းရောင်နီကုန်းလမ်းပို့ဆောင်ရေးကုမ္ပဏီလီမိတက် "** (နောင်တွင် **"ကုမ္ပဏီ"** ဟု ခေါ်ဆိုရန်) ကို ဖွဲ့စည်းရန် သဘောတူကြသည်။

၃-၀၂ ဖက်စပ်ကုမ္ပဏီတည်ထောင်ခြင်း၏ ရည်ရွယ်ချက်မှာ အထက်အပိုဒ် ၁. ၀၁တွင် ဖော်ပြထားသည့် လုပ်ငန်းများကို ဆောင်ရွက်ရန်ဖြစ်ပါသည်။

၃-၀၃ ကုမ္ပဏီသည် ချမှတ်ထားသော လုပ်ငန်းစီမံကိန်းများနှင့် အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့၏ ဆုံးဖြတ်ချက်များနှင့်အညီ ဆောင်ရွက်ခြင်းဖြင့် တိုးတက်အောင်ဆောင်ရွက်ရပါမည်။

၃-၀၄ ဖက်စပ်ကုမ္ပဏီသည် တည်ထောင်ရေးကာလ (သဘောတူညီချက် စာချုပ် ချုပ်ပြီးသုံးနှစ်) အတွင်း ကုန်းလမ်းသယ်ယူပို့ဆောင်ရေး မြို့တွင်းဘတ်စ်ကားလုပ်ငန်း၊ စီးလုံးငှားယာဉ် (Rental Service)၊ ယာဉ်မောင်းသင်တန်းသုံး၊အငှားယာဉ်(Taxi)လုပ်ငန်း ထူထောင်ပြေးဆွဲခြင်းအတွက် အောက်ပါမော်တော်ယာဉ်အရေအတွက်ကို ပြည်ပမှတင်သွင်းပါမည် -

| **မော်တော်ယာဉ်** | **စီးရေ** |
|---|---|
| မြို့တွင်းဘတ်စ်ကား(၄၅ယောက်စီး) | ၇၅ |
| အဆင့်မြင့်စီးလုံးငှားယာဉ် | ၄၅ |
| ယာဉ်မောင်းသင်တန်းသုံး၊ အငှားယာဉ်(Taxi) | ၈၀ |
| **စုစုပေါင်း** | **၂၀၀** |

အထက်ပါမော်တော်ယာဉ်များ၏ အချက်အလက်နှင့် ဓါတ်ပုံများကို Exhibit(A) တွင် ပူးတွဲဖော်ပြထားပါသည်။ ကုမ္ပဏီသည် မြို့တွင်းဘတ်စ်ကားကို ပထမနှစ်တွင်(၂၅)စီး၊ ဒုတိယနှစ်တွင်(၂၅)စီးနှင့် တတိယနှစ်တွင်(၂၅)စီးအားလည်းကောင်း၊ စီးလုံးငှားယာဉ်ကို ပထမနှစ်တွင် (၂၅)စီး၊ ဒုတိယနှစ်တွင်(၁၀)စီးနှင့် တတိယနှစ်တွင်(၁၀)စီးအား လည်းကောင်း၊ အမောင်းသင် အငှားယာဉ်**(TrainningTaxi)** ။ အငှားယာဉ်**(Taxi)**များ ကိုပထမနှစ်တွင်

(၃၅)စီး၊ ဒုတိယနှစ် တွင်(၃၀)စီးနှင့် တတိယနှစ်တွင်(၁၅)စီးအားလည်းကောင်း၊ လုပ်ငန်းစီမံကိန်းနှင့်အညီ ပြည်ပမှတင်သွင်းရန် လျာထားပါသည်။ နှစ်အလိုက်တင်သွင်းရန် ဖော်ပြထားသော ယာဉ်အရေအတွက်အား လုပ်ငန်းလိုအပ်ချက်အရ တင်သွင်းရန်ရှိပါက လိုအပ်သော ယာဉ်အရေအတွက်အား ညှိနှိုင်းဆောင်ရွက်သွားပါမည်။

၃-၀၅ ကုမ္ပဏီသည် **"မြို့တွင်းဘတ်စ်ကားစီမံကိန်း"**ကို ဆောင်ရွက်၍ ခရီးသွားပြည်သူများ မြို့တွင်းခရီးသွားလာရေးအတွက် ဘတ်စ်ကားအရေအတွက် ပိုမိုဖြည့်စွမ်းပေးနိုင်ရန်အတွက်လည်းကောင်း၊ ဘတ်စ်ကားများအဆင့်အတန်း မြှင့်တင်ပေးနိုင်ရန်အတွက်လည်းကောင်း၊ ခရီးသွားပြည်သူများ အသက်လုံခြုံမှု ပိုမိုရရှိစေရေးအတွက်လည်းကောင်း၊ ရန်ကုန်မြို့တွင်း ပြေးဆွဲနိုင်ရန် ယာဉ်အသစ်(သို့မဟုတ်) တစ်ပတ်ရစ်ယာဉ်များကို ပြည်ပမှတင်သွင်းပါမည်။

၃-၀၆ ကုမ္ပဏီသည် **" မြို့တွင်းနှင့် နယ်ဝေးစီးလုံး အငှားယာဉ်(Rental Service) အမောင်းသင် အငှားယာဉ်နှင့် အငှားယာဉ်စီမံကိန်း "** ကို ဆောင်ရွက်၍ နိုင်ငံခြားကုမ္ပဏီ၊ စီမံကိန်းများ ခရီးသွားပြည်သူများ ခရီးသွားလာမှု အဆင်ပြေစေရန်၊ မြို့တွင်းအငှားယာဉ်(Taxi) အရေအတွက်တိုးမြှင့်၍လည်းကောင်း၊ စီးလုံးငှားယာဉ်အသစ် အရည်အသွေးတိုးမြှင့်၍ လည်းကောင်း၊ ခရီးသွားပြည်သူအသက်လုံခြုံမှု ပိုမိုရရှိစေရန် လည်းကောင်း၊ ယာဉ်မောင်းသင်တန်းကျောင်းတွင် ယာဉ်လုံလုံလောက်လောက်ဖြင့် ကျွမ်းကျင်စွာလေ့ကျင့်သင်ကြားနိုင်ရန် အတွက်လည်းကောင်း ဆောင်ရွက်နိုင်ရန် ယာဉ်အသစ် (သို့မဟုတ်)တစ်ပါတ်ရစ် ယာဉ်(Taxi)များကို ပြည်ပမှတင်သွင်းကာ ရန်ကုန်မြို့တော်အတွင်းနှင့် မြို့ကြီးများသို့ ပြေးဆွဲ ပါမည်။

၃-၀၇ ကုမ္ပဏီသည် **" နိုင်ငံတကာအဆင့်မီ အဆင့်မြင့် Bus Terminal စီမံကိန်း"** ဆောင်ရွက်ပါမည်။ မြန်မာနိုင်ငံတိုးတက်ဖွံ့ဖြိုးမှုနှင့်အညီဖြစ်စေရန်၊ လုံလောက်သော ယာဉ်ရပ်နားနိုင်ရန် ကုန်းလမ်းပို့ဆောင်ရေးမှ ငှားရမ်းထားသော ရန်ကုန်တိုင်းဒေသကြီး၊ တာမွေမြို့နယ် ကျိုက္ကဆံရှိ အခြေစိုက်စခန်းတွင် စတင်တည်ဆောက်ပြီး၊ ယင်းစီမံကိန်းအတွက် လိုအပ်သော ဆောက်လုပ်ရေးပစ္စည်းများကို ပြည်ပမှတင်သွင်းပါမည်။ ဗိုလ်တစ်ထောင်မြို့နယ်ရှိ အခြေစိုက်စခန်းတွင်လည်း အထွေထွေအစည်းအဝေးများဖြင့် ဆွေးနွေးပြီး ဝန်ကြီးဌာနသို့ တင်ပြသွားပါမည်။

၃-၀၈ ကုမ္ပဏီသည်**"မော်တော်ယာဉ်အလုပ်ရုံ"**များကိုရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တစ်ထောင်မြို့နယ်တွင် တည်ဆောက်ပါမည်။ ၎င်းအလုပ်ရုံသည် အဆင့်မှီစစ်ဆေးရေး လုပ်ငန်းများကို ကုမ္ပဏီပိုင်မော်တော်ယာဉ်များ မတော်တဆမှုမှ ကာကွယ်ရေးအတွက် ဆောင်ရွက်ခြင်းဖြစ်ပါသည်။ ကုမ္ပဏီသည် မော်တော်ယာဉ်အလုပ်ရုံကို လုပ်ငန်းပိုင်မော်တော်ယာဉ်များကို ပြင်ဆင် ခြင်းနှင့်ထိန်းသိမ်းရန်အတွက် တည်ထောင်ခြင်းဖြစ်ပြီး အခြေအနေပေးပါကပြင်ပမှ မော်တော်ယာဉ်များကိုပါ ပြုပြင်ရန်ဖြစ်သည်။ ၎င်းစီမံကိန်းတွက် လိုအပ်သော စက်ပစ္စည်းများ၊ အပိုပစ္စည်းများနှင့် အလုပ်ရုံသုံးကိရိယာများကို ပြည်ပမှတင်သွင်းပါမည်။

၃-၀၉ ကုမ္ပဏီသည် ရန်ကုန်မြို့နှင့် အခြားသင့်တော်သော နေရာများတွင် လုပ်ငန်းပိုင်မော်တော်ယာဉ်များနှင့် ခရီးသွားများအဆင်ပြေစေရန် ပို့ဆောင်ရေးအတွက်လိုအပ်သော လောင်စာဆီအပါအဝင် ပို့ဆောင်ရေးနှင့်ဆက်နွယ်သော လုပ်ငန်းများအားလုံးကို ရည်ရွယ်ထားပါသည်။ ၎င်းလုပ်ငန်းများအတွက် ပြင်ပပုဂ္ဂိုလ်၊ ကုမ္ပဏီများသို့ ငှားရမ်းမည်ဖြစ်ပြီး လောင်စာဆီများ၊ ဘက်ထရီ၊ တာယာနှင့် ယာဉ်အပိုပစ္စည်းများကို ပြည်ပမှတင်သွင်းခွင့် ရရှိရန် စီစဉ်ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

၃-၁၀ ကုမ္ပဏီသည် မြို့တွင်းဘတ်စ်ကားများအတွက် ကြိုတင်ငွေပေးကဒ် ( iPay Card ) စနစ်ကို ဆောင်ရွက်သွားရန် ရည်ရွယ်ပါသည်။

၃-၁၁ မူလရည်ရွယ်ချက်ပါ စီမံကိန်းများအပြင် အခြားလုပ်ငန်းများကို အခြေအနေအရ လုပ်ကိုင်လိုပါက နှစ်ဦးနှစ်ဖက်သည် ရက်ပေါင်း(၃၀) ကြိုတင်အကြောင်းကြား၍ အထူး အစည်းအဝေး ခေါ်ယူကာ တညီတညွတ်တည်း ဆုံးဖြတ်လုပ်ကိုင်နိုင်သည်။ လိုအပ်ပါက ဝန်ကြီးဌာန၏ ခွင့်ပြုချက်ကို ရယူရမည်ဖြစ်သည်။

၃-၁၂ မူလရည်ရွယ်ချက်ပါ စီမံကိန်းများအနက် ကုမ္ပဏီ၏ အကျိုးစီးပွား ကိုထိခိုက်စေခြင်း၊ ထိခိုက်ရန်အလားအလာဖြစ်ပေါ်ခြင်း၊ အကျိုးစီးပွားမဖြစ်ထွန်းခြင်း၊ အကျိုးစီးပွားမဖြစ်ထွန်းရန် အလားအလာ အခြေအနေဖြစ်ပေါ်ပါက တဖက်ဖက်သည် ရက်ပေါင်း(၃၀) ကြိုတင်အကြောင်းကြား၍ အထူးအစည်းအဝေးခေါ်ယူကာ ဆုံးဖြတ်ချက်နှင့် ရပ်ဆိုင်းနိုင်သည်။ ပယ်ဖျက်နိုင်သည်။ ခွင့်ပြုထားသော လုပ်ငန်းများကို ရပ်ဆိုင်းခြင်း၊ ပယ်ဖျက်ခြင်းပြုလုပ်လိုပါက ဝန်ကြီးဌာန၏ သဘောတူခွင့်ပြုချက်ကို ကြိုတင်ရယူရမည်။

၃-၁၃ ဖက်စပ်လုပ်ငန်းသည် **ဖက်စပ်ကုမ္ပဏီ** စတင်တည်ထောင်သည့်နေ့မှစပြီး အနှစ် (၅၀) ကြာမြင့်မည် ဖြစ်ပါသည်။ ပထမကနဦး အနှစ်(၃၀)နှင့် နောက်ထပ် တစ်ကြိမ်လျှင်(၁၀)နှစ်ဖြင့် သက်တမ်း(၂)ကြိမ် တိုးနိုင်သည်။

၃-၁၄ အထက်ပါ သဘောတူညီချက်တွင် ဖော်ပြထားသည့် အချက်များနှင့်အညီ နှစ်ဦးနှစ်ဖက် တို့သည် လုပ်ငန်းရည်ရွယ်ချက် အောင်မြင်စေရန်အတွက် လိုအပ်သလို သင့်တင့်သောခွန်အားစိုက်ထုတ်၍ ဆောင်ရွက်ရမည်။

## အပိုဒ်(၄) ဖက်စပ်ကုမ္ပဏီ တွင်ရင်းနှီးမြှုပ်နှံခြင်း

၄-၀၁ နှစ်ဦးနှစ်ဖက်တို့သည် ဖက်စပ်ကုမ္ပဏီကို အစုရှယ်ယာ(Share)များဖြင့် ကန့်သတ်ထားသောကုမ္ပဏီအဖြစ်လည်းကောင်း၊ အများနှင့်မသက်ဆိုင်သော ကုမ္ပဏီအဖြစ်လည်းကောင်း၊ ၁၉၁၄ ခုနှစ် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေနှင့် ၁၉၅၀ ပြည့်နှစ် အထူးကုမ္ပဏီအက်ဥပဒေအရလည်းကောင်း ဖွဲ့စည်းရမည်။ မတည်ရင်းနှီးငွေပမာဏနှင့် အစုရှယ်ယာဝင်အသီးသီးက ထည့်ဝင်ရမည့်အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(၁) ကုမ္ပဏီအမည် - စန်းရောင်နီကုန်းလမ်းပို့ဆောင်ရေးကုမ္ပဏီလီမိတက်

(၂) ခွင့်ပြုမတည်ရင်းနှီးငွေပမာဏ - မြန်မာကျပ် ၂၀,၀၀၀ သန်း

(၃) ဖွဲ့စည်းချိန်တွင်ထည့်ဝင်ရမည့်မတည်ငွေ - မြန်မာကျပ် ၁၀,၀၄၆/-သန်း

(၄) စတင်ဖွဲ့စည်းချိန်တွင် အစုရှယ်ယာဝင်များ၏ အမည်၊ ၎င်းတို့ပေးသွင်းရမည့် မတည်ငွေရင်းနှင့် ၎င်းတို့ထည့်ဝင်ရမည့် ရှယ်ယာရာခိုင်နှုန်းမှာ -

| **အစုရှင်** | **ကျပ်(သန်း)** | **ရာခိုင်နှုန်း** |
|---|---|---|
| စန်းရောင်နီကုမ္ပဏီလီမိတက် | ၅,၇၂၆. ၀၀ | ၅၇% |
| ကုန်းလမ်းပို့ဆောင်ရေး | ၄,၃၂၀. ၀၀ | ၄၃% |
| **စုစုပေါင်း** | **၁၀,၀၄၆. ၀၀** | **၁၀၀%** |

၄-၀၂ အစုရှယ်ယာအားလုံး၏၅၇%ကို **"စန်းရောင်နီကုမ္ပဏီလီမိတက်"**အတွက် လည်းကောင်း၊ ၄၃%ကို **"ကုန်းလမ်းပို့ဆောင်ရေး"**အတွက် လည်းကောင်း၊ ခွဲဝေပေးရန်လျာထားပါမည်။ ကုန်းလမ်းပို့ဆောင်ရေးသည် မြေငှားခကိုအစုရှယ်ယာအဖြစ်ထည့်ဝင်ပါမည်။ **"စန်းရောင်နီကုမ္ပဏီလီမိတက်"**မှ ထည့်ဝင်ရမည့် ငွေသားကို ပထမနှစ်တွင် ၄၀%၊ ဒုတိယနှစ်တွင်

၃၀%နှင့် တတိယနှစ်တွင် ၃၀% အစီအစဉ်ဖြင့် ထည့်ဝင်မည်ဖြစ်ပြီး (၃)နှစ်အတွင်းProject ကို ဆောင်ရွက်ပါမည်။ ပထမနှစ်တွင် ၄၀%ထည့်ဝင်မှုမှ၂၅%၊ ဒုတိယနှစ်တွင် ၃၀% ထည့်ဝင်မှုမှ ၁၅%နှင့် တတိယနှစ်တွင် ၃၀%ထည့်ဝင်မှုမှ ၁၂%တို့အား သယ်ယူပို့ဆောင်ရေးရင်းနှီးမြှုပ်နှံမှုအဖြစ် ရင်းနှီးမြှုပ်နှံမည်ဖြစ်ပြီး ကျန်သောရင်းနှီးမြှုပ်နှံမှု၏၄၈% ကို (Bus Terminal/Workshop)များအတွက် ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။ အခြေအနေပေးပါက ရင်းနှီးမြှုပ်နှံမှုများသည်(၃)နှစ်ထက်စောပြီး ဆောင်ရွက်ရန် ရည်ရွယ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု (Bus Terminal / Workshop)အား လိုအပ်သော ခွင့်ပြုမိန့်များရရှိပြီး(၃)လအတွင်း စတင်ဆောင်ရွက်မည်ဖြစ်ပြီး တည်ဆောက်ချိန်ကာလ(၃)နှစ်အတွင်း ဆောင်ရွက်ပါမည်။

၄-၀၃ **"ကုန်းလမ်းပို့ဆောင်ရေး"**သည် မိမိတို့ထည့်ဝင်ရမည့် မတည်ငွေရင်းအတွက် အထက်အပိုဒ် ၃-၁၄တွင် ဖော်ပြထားသည့် အတိုင်းနှစ်(၃၀)သုံးဆယ်တိတိ ကုမ္ပဏီသို့ မြေငှားခဖြင့် အပြည့်အဝပေးသွင်းရမည်။ ၎င်းမြေငှားခအတွက် ဖော်ပြထားသော မြေငှားစာချုပ်နှင့်အညီ ဆောင်ရွက်ရမည်။ **"စန်းရောင်နီကုမ္ပဏီလီမိတက်"**သည် ၎င်းတို့ ပေးသွင်းရမည့် မတည်ငွေရင်းကို ငွေသားပေးသွင်းရမည်ဖြစ်ရာ ဖော်ပြထားသော မြေငှားစာချုပ်အရ ဆောင်ရွက်ရမည်။ **"ကုန်းလမ်းပို့ဆောင်ရေး"**သည် ၎င်းတို့ ပေးသွင်းရမည့် အစုရှယ်ယာကို ကုမ္ပဏီသို့ မြေကိုအနှစ်(၃၀)(သုံးဆယ်)လုပ်ကိုင်ခွင့်ပေးပြီး၊ အစုရှယ်ယာထည့်ဝင်ခြင်းအတွက် မြေငှားသဘောတူညီချက်ကို ကုန်းလမ်းပို့ဆောင်ရေးနှင့် **"စန်းရောင်နီကုမ္ပဏီလီမိတက်"** တို့ အကြား သီးခြားချုပ်ဆိုဆောင်ရွက်ရမည်။ ထို့အတူ **"စန်းရောင်နီကုမ္ပဏီလီမိတက်"** ထည့်ဝင်ရမည့်ငွေကိုကြိုတင်သတ်မှတ်၍ **"စန်းရောင်နီကုမ္ပဏီလီမိတက်"** မှ ထည့်ဝင်ငွေ ပေးသွင်းခြင်းကို ကုမ္ပဏီစတင်တည်ထောင်သည့် (၃)နှစ်အတွင်း ၎င်းကို ရင်းနှီးမြှုပ်နှံမှု အစီအစဉ်တွင် ဖော်ပြထားချက်အတိုင်း ဆောင်ရွက်ရမည်။ ခွင့်ပြုချက်ရရှိပြီး စာချုပ်လက်မှတ်ရေးထိုးသော ရက်မှ(၃)လအတွင်း ရင်းနှီးမြှုပ်နှံမှုများအား လုပ်ငန်းလျာထားချက်များ၏ လိုအပ်ချက်ငွေ ပမာဏအတိုင်း ထည့်ဝင်မည်ဖြစ်သည်။

၄-၀၄ **"ကုန်းလမ်းပို့ဆောင်ရေး"** သည် ကုမ္ပဏီဖွဲ့စည်းခြင်းနှင့် ကုမ္ပဏီလုပ်ဆောင်ခြင်းများကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတွင် ပြဋ္ဌာန်းထားသော ဥပဒေ၊ နည်းဥပဒေများနှင့် ညီညွတ်စေရေးအတွက် ပါဝင်ကူညီရမည်။ ထို့အပြင်နှစ်ဦးနှစ်ဖက်တို့သည် ရင်းရင်းနှီးနှီး

ပူးပေါင်းဆောင်ရွက်ရန်နှင့် တိုင်ပင်ဆောင်ရွက်ကြရမည်။ ဥပဒေ၊ နည်းဥပဒေများအရ လည်းကောင်း၊ ဖက်စပ်စာချုပ် နှင့် သင်းဖွဲ့စည်းမျဉ်း အရ လည်းကောင်းရေးဆွဲရမည်။

၄-၀၅ ကုမ္ပဏီတည်ထောင်ချိန်တွင် ပေးသွင်းရမည့်အစုရှယ်ယာကို အစုရှယ်ယာပေါင်း ၂၀၀,၀၀၀ ရှယ်ယာဖြင့် ခွဲခြားပြီး တစ်စု၏တန်ဖိုးမှာ မြန်မာကျပ် ၁၀၀,၀၀၀/- သတ်မှတ်ရမည်။ ၎င်းအစုရှယ်ယာကို အထက်အပိုဒ် ၄-၀၁တွင် ဖော်ပြထားသည့်အတိုင်း အပြည့်အဝ ပေးသွင်းရမည်။ အစုရှယ်ယာရှင်အသီးသီးအတွက် ကုမ္ပဏီစတင်တည်ထောင်ချိန်တွင် ခွဲဝေချထားသော ပမာဏနှင့် ပေးသွင်းရမည့်ပမာဏကို အောက်ပါအတိုင်းဖော်ပြပါသည်။

| **အစုရှင်** | **ကျပ်(သန်း)** | **ရာခိုင်နှုန်း** |
|---|---|---|
| "စန်းရောင်နီကုမ္ပဏီလီမိတက်" | ၅,၇၂၆. ၀၀ | ၅၇% |
| ကုန်းလမ်းပို့ဆောင်ရေး | ၄,၃၂၀. ၀၀ | ၄၃% |
| **စုစုပေါင်း** | **၁၀,၀၄၆. ၀၀** | **၁၀၀%** |

၄-၀၆ ဒါရိုက်တာအဖွဲ့၏ ပထမအစည်းအဝေးကို ကုမ္ပဏီတည်ထောင်ပြီးပြီးချင်း (၁)လအတွင်း ကုမ္ပဏီမှ သတ်မှတ်သည့်နေရာတွင် ကျင်းပရမည်။

၄-၀၇ ဖက်စပ်ကုမ္ပဏီသည် ၁၉၁၄ ခုနှစ်၊ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေနှင့် ၁၉၅၀ ပြည့်နှစ် အထူးကုမ္ပဏီအက်ဥပဒေတွင် ဖော်ပြထားသောပုံစံနှင့်အညီ နှစ်ဦးနှစ်ဖက်သို့ အစုရှယ်ယာ လက်မှတ်ထုတ်ပေးရမည်။ ကုမ္ပဏီသည်မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေတွင်ပြဋ္ဌာန်းချက် နှင့်အညီ သက်ဆိုင်ရာ အစုရှယ်ယာရှင်များ၏ ပိုင်ဆိုင်မှုကို တရားဝင်စေရန်အတွက် အစု ရှယ်ယာမှတ်တမ်းကို ထားရှိရမည်။

## အပိုဒ်(၅) မတည်ရင်းနှီးငွေတိုးမြှင့်ခြင်း

၅-၀၁ ခွဲဝေချထားပြီးသော မတည်ရင်းနှီးငွေကိုအခါအားလျော်စွာ နှစ်ဦးနှစ်ဖက်သဘောတူညီချက် နှင့်အညီ တိုးမြှင့်နိုင်သည်။ နှစ်ဦးနှစ်ဖက်သဘောတူညီမှုမရှိပါက အထက်အပိုဒ် ၄-၀၁(၄) တွင် ဖော်ပြထားသော သတ်မှတ်ချက်ကို ပြင်ဆင်ပြောင်းလဲမှုမရှိစေရ။

၅-၀၂ အကယ်၍ ဒါရိုက်တာအဖွဲ့သည် အခါအားလျော်စွာ ကုမ္ပဏီအနေနှင့် ဘဏ္ဍာရန်ပုံငွေ လိုအပ်သည်ဟု ဆုံးဖြတ်ပါက နှစ်ဦးနှစ်ဖက်မှလည်းကောင်း၊ အခြားငွေချေးသူထံမှလည်းကောင်း ရှာဖွေရယူနိုင်သည်။ သို့သော်နှစ်ဦးနှစ်ဖက်တို့သည် ငွေကြေးပမာဏ၊ ရယူရမည့် နည်းလမ်းတို့အပေါ် သဘောတူညီချက်မရလျှင် လုံးဝဆောင်ရွက်မှုမပြုလုပ်ရ။ နှစ်ဦးနှစ်ဖက်သဘောတူညီချက်များမှအပ နှစ်ဦးနှစ်ဖက်တို့သည် ကုမ္ပဏီအတွက် အစုရှယ်ယာ (သို့မဟုတ်) ချေးငွေကို တူညီသောအချိန်၊ တူညီသောစည်းကမ်း၊ တူညီသောအစု ရှယ်ယာ အချိုးအစားနှင့်အညီ ထည့်ဝင်ရမည်။

## အပိုဒ်(၆) စာချုပ်ဝင်များ၏ တာဝန်ဝတ္တရားများ

၆-၀၁ **"ကုန်းလမ်းပို့ဆောင်ရေး"**၏**"စန်းရောင်နီကုမ္ပဏီလီမိတက်"** သို့ကိုယ်စားလှယ်စေလွှတ်မှုနှင့် တာဝန်ခံမှုမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) **"ကုန်းလမ်းပို့ဆောင်ရေး"**သည် ဤသဘောတူညီချက် ကိုဆောင်ရွက်ရန်နှင့် လက်ရောက်ပေးအပ်ရန်တရားဝင်သည်။ထိုသို့ဆောင်ရွက်ရာတွင်ကုန်းလမ်းပို့ဆောင်ရေး၏တရားဝင် ကိုယ်စားလှယ်သည် ဤသဘောတူညီချက်ကို ဆောင်ရွက်ရန်နှင့် လက်ရောက် ပေးအပ်ရန် တရားဝင်စေလွှတ်သော ကိုယ်စားလှယ် ဖြစ်သည်။

(ခ) **"ကုန်းလမ်းပို့ဆောင်ရေး"**သည် ဗိုလ်တထောင်မြို့နယ်ရှိ ၂.၄၄ ဧက အတိုင်းအတာရှိမြေနှင့် တာမွေမြို့နယ်၊ ကျိုက္ကဆံရှိ ၁.၅၆ ဧကအတိုင်း အတာရှိ မြေများကို ကုမ္ပဏီလုပ်ငန်းများ ဆောင်ရွက်ရန်အတွက် ကုမ္ပဏီအား မြေသုံးစွဲရန်ခွင့်ပြုရမည်။ **"ကုန်းလမ်းပို့ဆောင်ရေး"** သည် ဒါရိုက်တာအဖွဲ့၏ ပထမအစည်းအဝေးတွင် မြေငှားစာချုပ်ကို အကျုံးဝင်အောင် ဆောင်ရွက်ရမည်။

(ဂ) **"ကုန်းလမ်းပို့ဆောင်ရေး"**သည်ဤသဘောတူညီချက်များနှင့်အညီ ဆောင်ရွက်ရမည့် လုပ်ငန်းများကို ခိုင်လုံသော အကြောင်းပြချက်မရှိဘဲ ပြောင်းလဲခြင်းမရှိ စေရ။

(ဃ) **"ကုန်းလမ်းပို့ဆောင်ရေး"**သည် မိမိ၏ကိုယ်စားပြုမှုနှင့် တာဝန်ခံမှုများအပေါ် တစ်စုံတစ်ရာဖောက်ဖျက်မှုကြောင့် **"စန်းရောင်နီကုမ္ပဏီလီမိတက်"**တွင် ဆုံးရှုံးမှုများဖြစ်ပေါ်လာပါက ဆုံးရှုံးမှုအားလုံး ငွေကြေးနှင့် ပျက်စီးမှုများအတွက် တာဝန်ယူရမည်။

၆-၀၂ **"စန်းရောင်နီကုမ္ပဏီလီမိတက်" ၏ တာဝန်ဝတ္တရားများ**

"စန်းရောင်နီကုမ္ပဏီလီမိတက်"သည်"ကုန်းလမ်းပို့ဆောင်ရေး"သို့ကိုယ်စားပြုမှုနှင့်တာဝန်ခံမှုများမှာ အောက်ပါအတိုင်းဖြစ်သည်-

(က) **"စန်းရောင်နီကုမ္ပဏီလီမိတက်"** သည် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်ပြီး လက်ရှိဆောင်ရွက်ဆဲနှင့် တရားဝင်ဖြစ်ပါသည်။

(ခ) **"စန်းရောင်နီကုမ္ပဏီလီမိတက်"**သည် ဤသဘောတူညီချက်ကို ဆောင်ရွက်ရန်နှင့် လက်ရောက်ပေးအပ်ရန် တရားဝင်အခွင့်အရေး ရရှိပြီးဖြစ်ပါသည်။ ဤသဘောတူညီချက်အရ **"စန်းရောင်နီကုမ္ပဏီလီမိတက်"**သည် ကိုယ်တိုင် သော်လည်းကောင်း၊ ၎င်း၏ကိုယ်စားလှယ်ဖြင့်သော်လည်းကောင်း၊ ဆောင်ရွက်နိုင်သောသဘောတူညီချက် ဖြစ်ပါသည်။ ထို့ပြင် ၎င်းသဘောတူညီချက်တွင် **"စန်းရောင်နီကုမ္ပဏီလီမိတက်"**သည် တရားဥပဒေနှင့်အညီ ရပ်တည်နိုင်ခွင့် တရားဝင်ဥပဒေအရ အကျုံးဝင်မှုရှိပြီး ဖြစ်ပါသည်။

(ဂ) သဘောတူညီချက်အား ဆောင်ရွက်ရာတွင်လည်းကောင်း၊ အကောင်အထည်ဖော်ရာတွင်လည်းကောင်း **"စန်းရောင်နီ ကုမ္ပဏီလီမိတက်"**သည် တည်ရှိပြီးဥပဒေ၊ နည်းဥပဒေ၊ စာချွန်လွှာများကို မဖောက်ဖျက်ကြောင်း အာမခံသည်။

(ဃ) အပိုဒ်(၄)တွင် ဖော်ပြထားသော အစုရှယ်ယာများကို **"စန်းရောင်နီကုမ္ပဏီလီမိတက်"**က ရှယ်ယာထည့်ဝင်ခြင်းနှင့်ပတ်သက်၍ ၁၉၁၄ ခုနှစ်၊ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေနှင့် ၁၉၅၀ ပြည့်နှစ် အထူးကုမ္ပဏီ အက်ဥပဒေနှင့်အညီ ခွင့်ပြုခြင်း၊ အတည်ပြုခြင်းတို့ဖြင့် တရားဝင်ဖြစ်စေရမည်။

၆-၀၃ ဤသဘောတူညီချက်တွင် ဖော်ပြထားသည့်အတိုင်း **"စန်းရောင်နီကုမ္ပဏီလီမိတက်"** ၏ ကိုယ်စားဖြစ်စေမှုနှင့် တာဝန်ဝတ္တရားများအရ စတင်ဆောင်ရွက်ရမည့်ရက်ကို စုံစမ်းခြင်း၊ စိစစ်ခြင်း၊ အတည်ပြုချက် ရယူရန် အကြောင်းပြ၍ ပြောင်းလဲမှုမပြုစေရ။

၆-၀၄ **"စန်းရောင်နီကုမ္ပဏီလီမိတက်"**၏ ကိုယ်စားပြုမှုနှင့် တာဝန်ယူမှုများ၏ တစ်စုံတစ်ရာ ဖောက်ဖျက်မှုများအတွက် **"ကုန်းလမ်းပို့ဆောင်ရေး"**တွင် ဖြစ်ပေါ်သောဆုံးရှုံးမှု ငွေကြေးနှင့် ထိခိုက်မှုများအပေါ် အပြည့်အဝ တာဝန်ယူရမည်။

## အပိုဒ်(၇) အစုရှယ်ယာရှင်များ၏ အထွေထွေ အစည်းအဝေး

၇-၀၁ ပထမအကြိမ်အစုရှယ်ယာရှင်များ၏ အထွေထွေအစည်းအဝေးကို ကုမ္ပဏီတည်ထောင်ပြီး (၁၈)လထက် နောက်မကျပဲကျင်းပရမည်။ ထို့နောက် နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် (၁၅)လထက်မကျော်လွန်စေဘဲ တစ်နှစ်လျှင် တစ်ကြိမ်၊ ကုမ္ပဏီမှ သတ်မှတ်ပေးမည့် အချိန်နှင့်နေရာ၌ ကျင်းပရမည်။

၇-၀၂ ၎င်း အထွေထွေအစည်းအဝေး၏ ဥက္ကဋ္ဌ အဖြစ် မန်နေဂျင်းဒါရိုက်တာမှ ဆောင်ရွက်ရမည်။ အကယ်၍ မန်နေဂျင်းဒါရိုက်တာ တက်ရောက်ရန်ပျက်ကွက်ပါက ၎င်းသတ်မှတ်ပေးသော ပုဂ္ဂိုလ်ကဥက္ကဋ္ဌအဖြစ် ဆောင်ရွက်ရမည်။ နှစ်ပတ်လည်အထွေထွေ အစည်းအဝေးကို ကုမ္ပဏီ၏ ပရဝုဏ်တွင်ကျင်းပရမည်(သို့မဟုတ်) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံအတွင်း မန်နေဂျင်းဒါရိုက်တာ၏ အစီအစဉ်ဖြင့် ဆောင်ရွက်ရမည်။ ၎င်းနှစ်ပတ်လည်အထွေထွေ အစည်းအဝေး၏ ဆုံးဖြတ်ချက်ကို မြန်မာဘာသာဖြင့် ရေးသားရမည်။

၇-၀၃ ၎င်းအစည်းအဝေးသို့ နှစ်ဦးနှစ်ဖက်က ကိုယ်တိုင်လည်းကောင်း၊ တရားဝင်ကိုယ်စားလှယ်ဖြင့်လည်းကောင်း တက်ရောက်ရမည်။ ကုမ္ပဏီ၏ သင်းဖွဲ့စည်းမျဉ်းတွင် အခြားနည်းဖြင့် ပြဋ္ဌာန်းမထားလျှင် အစည်းအဝေးဆုံးဖြတ်ချက်ကို အစည်းအဝေးတက်ရောက်သည့် အစုရှယ်ယာရှင်များ၏ မဲအများဆုံးဖြင့် ဆုံးဖြတ်ရမည်။

အောက်ဖော်ပြပါအရေးကြီးသော ကိစ္စရပ်များကို အစုရှင်အများစု၏ ဆန္ဒမဲအများစုဖြင့် ထည့်သွင်း ဆွေးနွေး၍ ဆုံးဖြတ်ရမည်-

(က) လုပ်ငန်းအသစ်များ စတင်ဆောင်ရွက်ခြင်း (သို့မဟုတ်) ကုမ္ပဏီတွင်လည်းကောင်း၊ အခြားအဖွဲ့ အစည်းတွင်လည်းကောင်း၊ ရင်းနှီးမြှုပ်နှံခြင်း (သို့မဟုတ်) လုပ်ငန်း တစ်ခုခုကို ရုပ်သိမ်းခြင်း။

(ခ) အစုရှယ်ယာအပေါ် အမြတ်ပြန်အမ်းငွေကိုကြေငြာခြင်း။

(ဂ) စာရင်းစစ်ဆေးပြီး ဘဏ္ဍာရေးစာရင်းများကိုအတည်ပြုခြင်း။

## အပိုဒ်(၈) လုပ်ငန်းစီမံခန့်ခွဲမှု

၈-၀၁ ဒါရိုက်တာအဖွဲ့သည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေနှင့် အထွေထွေအစည်းအဝေးတွင် ပေးအပ်ထားသော လုပ်ပိုင်ခွင့်များအရ ကုမ္ပဏီအား အုပ်ချုပ်ရမည်။ ဒါရိုက်တာအဖွဲ့ကို ဒါရိုက်တာ(၅)ဦးဖြင့်ဖွဲ့စည်းပြီး **"ကုန်းလမ်းပို့ဆောင်ရေး"**သည် ဒါရိုက်တာ(၂)ဦးအားလည်းကောင်း၊ **"စန်းရောင်နီကုမ္ပဏီလီမိတက်"**သည် ဒါရိုက်တာ(၃)ဦးအား လည်းကောင်း အဆိုပြု ခန့်ထားပိုင်ခွင့်ရှိသည်။ နေ့စဉ်လုပ်ငန်းများ ဆောင်ရွက်ရန်နှင့် အုပ်ချုပ်ရန်ကိစ္စကို **"စန်းရောင်နီကုမ္ပဏီလီမိတက်"**မှဆောင်ရွက်ပါမည်။ ကုမ္ပဏီသည်စာရင်းဇယားများကို ရေးဆွဲပြီး ကုမ္ပဏီတွင်ထိန်းသိမ်းရမည်။ စာချုပ်ဝင်အသီးသီးသည် ၎င်းတို့အဆိုပြု ခန့်အပ်ထားသော ကိုယ်စားလှယ်တစ်ဦးတစ်ယောက်ကိုဖြစ်စေ၊ အများကိုဖြစ်စေ တာဝန်မှဖယ်ရှားနိုင်ပြီး၊ ၎င်းတို့၏နေရာတွင် အခြားပုဂ္ဂိုလ်များကို အဆိုပြုခန့်ထားနိုင်သည်။ အဆိုပါဖယ်ရှားခြင်း၊ အစားထိုးခန့်ထားခြင်းတို့၏ ရည်ရွယ်ချက်ကို စာဖြင့်ရေးသား၍ အခြားတဖက်နှင့် ကုမ္ပဏီသို့ အကြောင်းကြားရမည်။ စာချုပ်ဝင်တို့သည် အဆိုပါအဆိုပြုခြင်းနှင့် အစားထိုးခန့်ထားခြင်းကိစ္စ ဆောင်ရွက်အောင်မြင်စေရန် ပူပေါင်းကူညီရမည်။

၈-၀၂ **"စန်းရောင်နီကုမ္ပဏီလီမိတက်"**သည် မန်နေဂျင်းဒါရိုက်တာခန့်ထားရန်အတွက်ဒါရိုက်တာအဖွဲ့ထံအမည်စာရင်း တင်သွင်းပိုင်ခွင့်ရှိသည်။ မန်နေဂျင်းဒါရိုက်တာသည် ကုမ္ပဏီ၏ နေ့စဉ်လုပ်ငန်းများဆောင်ရွက်ရန်အတွက် တာဝန်ခံရမည်။ **"ကုန်းလမ်းပို့ ဆောင်ရေး"**နှင့် **"စန်းရောင်နီကုမ္ပဏီလီမိတက်"**တို့မှ အဆိုပြုခန့်ထားသော ဒါရိုက်တာများနှင့် ၎င်းတို့ ၏ လုပ်ငန်းဆောင်ရွက်မှုများကို အသိအမှတ်ပြုရမည်။

၈-၀၃ ဒါရိုက်တာအဖွဲ့နှင့် မန်နေဂျင်းဒါရိုက်တာတို့အား ခန့်အပ်တာဝန်ပေးမှုကာလသည် တဖက်ဖက်က တခြားတဖက်သို့ ၎င်းတို့အား အစားထိုးခန့်ထားရန်အတွက် စာဖြင့်အကြောင်းကြားသည့်နေ့အထိ ဖြစ်စေရမည်။

၈-၀၄ ဒါရိုက်တာအဖွဲ့သည် ဘဏ္ဍာရေးနှစ်တစ်နှစ်လျှင် အနည်းဆုံး(၃)ကြိမ် စည်းဝေးရမည်။ စည်းဝေးရာတွင် ကုမ္ပဏီပရဝုဏ်တွင်လည်းကောင်း၊ မန်နေဂျင်းဒါရိုက်တာ၏ စီစဉ်ပေးသော ပြည်တွင်းတနေရာရာတွင် လည်းကောင်းကျင်းပရမည်။ မန်နေဂျင်း ဒါရိုက်တာသည် ကုမ္ပဏီအတွက် အရေးကြီးသည့်ဆုံးဖြတ်ချက်များချမှတ်ရန်လိုအပ်ပါက အစည်းအဝေးအား

ခေါ်ယူကျင်းပနိုင်သည်။ မန်နေဂျင်းဒါရိုက်တာသည် ၎င်းအစည်းအဝေး၏ ဥက္ကဋ္ဌ ဖြစ်သည်။ အကယ်၍၎င်းပျက်ကွက်လျှင်၎င်းအဆိုပြုသော ပုဂ္ဂိုလ်ကဥက္ကဋ္ဌအဖြစ် ဆောင်ရွက်ရမည်။ မန်နေဂျင်းဒါရိုက်တာသည် အစည်းအဝေးကျင်းပရန် (၂၁)ရက်ထက်မနည်း ကြိုတင်၍ ဒါရိုက်တာအားလုံးအား စာဖြင့်ဖိတ်ကြားရမည်။ ကြိုတင်ဖိတ်ကြားမှုတွင် အစည်းအဝေးကျင်းပမည့်အချိန်၊ နေရာ၊ အစီအစဉ်နှင့် ဒါရိုက်တာအဖွဲ့ကအဆိုပြုရန် ဖိတ်ကြားထားသည့် ပြင်ပပုဂ္ဂိုလ်စာရင်းတို့အား ဖော်ပြရမည်။ အကယ်၍ ဆွေးနွေးမည့် အကြောင်းအရာသည် အရေးကြီးလျှင်သော်လည်းကောင်း၊ မန်နေဂျင်းဒါရိုက်တာ ကသဘောတူလျှင်လည်းကောင်း အဆိုပါကြိုတင် ဖိတ်ကြားရမည့်အစီအစဉ်ကို အချိန်စော၍ခေါ်ဆိုနိုင်သည်။ ဒါရိုက်တာအဖွဲ့ အစည်းအဝေး၏ဆုံးဖြတ်ချက်ကို မြန်မာဘာသာဖြင့် ရေးသားရမည်။ အစည်းအဝေးအထမြောက်စေရန်အနည်းဆုံး(၇၅%) တက်ရောက်ရမည်ဖြစ်ပြီး ကုန်းလမ်းပို့ဆောင်ရေးမှ ဒါရိုက်တာ(၂)ဦး နှင့် စန်းရောင်နီမှ ဒါရိုက်တာ(၂)ဦး တက်ရောက်ရမည်။

၈-၀၅ ကုမ္ပဏီသည် ဒါရိုက်တာများအစည်းအဝေး တက်ရောက်ရန် ခရီးစရိတ်၊ အစည်းအဝေးတက်ရောက်ခနှင့် အခြားစရိတ်များကို တာဝန်ယူကျခံရမည်။

၈-၀၆ ဒါရိုက်တာ အဖွဲ့ဝင်အားလုံးသည် ကြိုတင်အကြောင်းကြားချက်အရ ကုမ္ပဏီ၏စာရင်းစာအုပ်များ၊ သဘောတူညီချက်များနှင့် အခြားစာရွက်စာတမ်းများကို သင့်တော်သောအချိန်အတွင်း လွတ်လပ်စွာကြည့်ရှု ပိုင်ခွင့်ရှိသည်။

၈-၀၇ ဒါရိုက်တာအဖွဲ့သည် ဖက်စပ်လုပ်ငန်းနှင့် စီမံကိန်းများကို ဆောင်ရွက်ရာတွင်ချွေတာခြိုးခြံသုံးစွဲရန် တာဝန်ယူရမည်။

၈-၀၈ အမှုဆောင်ဒါရိုက်တာများမှအပ ဒါရိုက်တာအဖွဲ့ဝင်များသည် လစာများကိုခံစားပိုင်ခွင့်မရှိပါ။ ဆုကြေးများကိုခံ စားပိုင်ခွင့်ရှိသည်။

၈-၀၉ အောက်ပါဆောင်ရွက်ချက်များအတွက် ဒါရိုက်တာအဖွဲ့ဝင်များအားလုံးက တစ်ညီတညွတ်တည်း သဘောတူမှသာလျှင် လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိသည်။

(က) ငွေချေးခြင်း။

(ခ) လုပ်ငန်းစီမံကိန်းအသစ်များချမှတ်ခြင်း(မူလရည်ရွယ်ချက်ပါစီမံကိန်းများမှအပ)။

(ဂ) နှစ်စဉ် ရသုံးမှန်းခြေ ငွေစာရင်း(မ,တည်အသုံးစရိတ်အပါအဝင်) သတ်မှတ်ခြင်း။

(ဃ) သင်းဖွဲ့စည်းမျဉ်းတွင်ပါဝင်သော သတ်မှတ်ချက်များပြင်ဆင်ပြောင်းလဲခြင်း။

(င) အစုထည့်ဝင်ငွေများ ပြောင်းလဲခြင်း။

## အပိုဒ်(၉) အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

၉-၀၁ **"ကုန်းလမ်းပို့ဆောင်ရေး"**နှင့် **"စန်းရောင်နီကုမ္ပဏီလီမိတက်"**တို့သည် သက်ဆိုင်ရာ ဥပဒေများအရ လုပ်ပိုင် ခွင့်အာဏာ အပ်နှင်းခံရသော တရားဝင်ပုဂ္ဂိုလ်များဖြစ်ကြောင်းနှင့် ဤစာချုပ်ကိုချုပ်ဆိုရန် အခွင့်အာဏာရှိသူ ဘဏ္ဍာငွေတောင့်တင်းသူနှင့် လုပ်ပိုင်ခွင့်ရှိသူအဖြစ် အာမခံကြပါသည်။

## အပိုဒ်(၁၀) ကုမ္ပဏီ၏ စာရင်းထားသိုခြင်းနှင့်စာရင်းစစ်ဆေးခြင်း

၁၀-၀၁ ကုမ္ပဏီသည် **"စန်းရောင်နီကုမ္ပဏီလီမိတက်"**မှ ရွေးချယ်ထားသည့်စာရင်းထားသိုခြင်းစနစ်ဖြင့်ထိန်းသိမ်း ထားရှိပါမည်။ ၎င်းစနစ်သည် မြန်မာနိုင်ငံစာရင်းကောင်စီမှ ပြဌာန်းထားသော စာရင်း စံနှုန်းများ၊ တည်ဆဲဥပဒေများနှင့် ညီညွတ်စေရမည်။

၁၀-၀၂ ကုမ္ပဏီ၏ဘဏ္ဍာရေးနှစ်သည်နှစ်စဉ် ဧပြီ(၁)ရက်နေ့မှ စ၍နောင်နှစ် မတ်လ(၃၁)ရက်နေ့တွင် ကုန်ဆုံးရမည်။ သို့သော် ပထမဘဏ္ဍာရေးနှစ်သည် ကုမ္ပဏီတည်ထောင်သည့်နေ့မှစ၍ မတ်လ(၃၁)ရက်နေ့တွင် ကုန်ဆုံးရမည်။ ကုမ္ပဏီသည် ၎င်း၏ စာရင်းစာအုပ်များကို မြန်မာဘာသာ(သို့မဟုတ်) အင်္ဂလိပ်ဘာသာဖြင့် မြန်မာနိုင်ငံစာရင်းစံနှုန်းများနှင့်အညီ ရေးသွင်းရမည်။ ၎င်းစာရင်းစာအုပ်များကို ကုမ္ပဏီမှ အနည်းဆုံး (၇)နှစ်ထိန်းသိမ်းထားရှိရမည်။

၁၀-၀၃ စာချုပ်ဝင်တစ်ဦးတစ်ဖက်သည် ကုမ္ပဏီ၏ဖက်စပ်လုပ်ငန်း၊ စီမံကိန်းတို့၏ စာရင်းစာအုပ်များ၊ သဘောတူညီချက်များ၊ ဖက်စပ်လုပ်ငန်းနှင့်သက်ဆိုင်သော အခြားမှတ်တမ်းများကို ကိုယ်တိုင်ဖြစ်စေ၊ ကိုယ်စားလှယ်ခန့်အပ်၍ဖြစ်စေ၊ ပြည်ထောင်စုစာရင်းစစ်ချုပ်မှအတည်ပြုပြီး ကုမ္ပဏီမှခန့်ထားသည့် လက်မှတ်ရစာရင်းကိုင် တစ်ဦးဦးမှဖြစ်စေ အချိန်မရွေး စစ်ဆေးနိုင်ခွင့်ရှိသည်။ စစ်ဆေးသည့်စရိတ်ကို သက်ဆိုင်သည့်ဘက်မှကျခံရမည်။

၁၀-၀၄ အစုရှယ်ယာရှင်များသည် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၄၅-ကနှင့် အထူးကုမ္ပဏီများအက်ဥပဒေတို့နှင့်အညီ လွတ်လပ်သောစာရင်းစစ်ကိုခန့်ထားရမည်။ အဆိုပါ

ခန့်အပ်ထားသော စာရင်းစစ်သည် လုံလောက်သော အရည်အချင်းဖြင့် လည်းကောင်း အသက်မွေးမှုဆိုင်ရာ အရည်အချင်းဖြင့်လည်းကောင်း၊ စစ်ဆေးရန်အရည်အချင်း ပြည့်စုံရမည်။ ယင်းခန့်ထားသော စာရင်းစစ်သည် ဒါရိုက်တာအဖွဲ့အပြင် နှစ်ဦးနှစ်ဖက်တို့နှင့် လွတ်လပ်၊ ကင်းလွတ်သော ပုဂ္ဂိုလ်ဖြစ်ရမည်။

## အပိုဒ်-၁၁ ဝန်ထမ်းများခန့်ထားခြင်း

၁၁-၀၁ ဖက်စပ်ကုမ္ပဏီအတွက် ဝန်ထမ်းများခန့်ထားရာတွင် ကုန်းလမ်းပို့ဆောင်ရေးမှ ဝန်ထမ်းများအားသတ်မှတ်ချက်နှင့်အညီခန့်ထားခြင်း၊ နိုင်ငံသားများကို ဦးစားပေး၍ခန့်ထားခြင်း နိုင်ငံတော်၏ တည်ဆဲအလုပ်သမားဥပဒေ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ ဆောင်ရွက်ရမည်။

၁၁-၀၂ ဝန်ထမ်းများ၏လစာကို ဒါရိုက်တာအဖွဲ့က အခါအားလျော်စွာ သတ်မှတ်ပေးရမည်။

၁၁-၀၃ ဝန်ထမ်းများအတွက် မွမ်းမံသင်တန်းနှင့် အရည်အချင်းမြင့်မားစေသည့် သင်တန်းများ ပြုလုပ်ပေးရမည်။

## အပိုဒ်(၁၂) ကုန်းလမ်းပို့ဆောင်ရေး၏အကူအညီပေးမှုနှင့် ပူးပေါင်းဆောင်ရွက်မှု

၁၂-၀၁ **"ကုန်းလမ်းပို့ဆောင်ရေး"**သည်ကုမ္ပဏီအနေဖြင့်စီမံကိန်း နှင့်ဖက်စပ်လုပ်ငန်း အောင်မြင်အောင်ဆောင်ရွက်နိုင်ရန်အတွက် ကူညီခြင်းနှင့်ပူးပေါင်းဆောင်ရွက်ခြင်းတို့ ပြုလုပ်ရပါမည်။ ၎င်းကူညီခြင်းနှင့် ပူးပေါင်းဆောင်ရွက်ခြင်းတို့တွင် ကုမ္ပဏီ၏လုပ်ငန်းတွင် လိုအပ်ချက်ဖြစ်သော လုပ်ပိုင်ခွင့်ပေးအပ်ခြင်း၊ အတည်ပြုခွင့်နှင့်တရားဝင်မှုတို့ ပါဝင်ရမည်။ ကုန်းလမ်းပို့ဆောင်ရေးမှ ဝန်ထမ်းများကိုဦးစားပေးခန့်ထား၍ ခရီးသည်ပို့ဆောင်ရေးလုပ်ငန်းကို ဆောင်ရွက်စေရမည်။ ထို့ပြင်၎င်းနိုင်ငံတော်အစိုးရနှင့် သက်ဆိုင်ရာတာဝန်ရှိလုပ်ပိုင်ခွင့်ရှိသူမှ ခွင့်ပြုထားသော အခွန် ဆိုင်ရာ ခံစားခွင့်များ၊ ကင်းလွတ်ခွင့်များဖြစ်သည့် -

(က) ကုမ္ပဏီ၏စီမံကိန်းအတွက် လိုအပ်သော မော်တော်ယာဉ်၊ စက်ပစ္စည်းများ၊ ကိရိယာများ၊ လောင်စာဆီ၊ ဆောက်လုပ်ရေးပစ္စည်းများ၊ ယာဉ်အပိုပစ္စည်းများ၊ အစိတ်

အပိုင်းများကို ပြည်ပမှ တင်သွင်းရာတွင် လုပ်ထုံးလုပ်နည်း အတိုင်းခွင့်ပြုချက်များ ရရှိအောင် ကူညီရမည်။

(ခ) **"ကုန်းလမ်းပို့ဆောင်ရေး"**အနေဖြင့် ကုမ္ပဏီအတွက် တည်ဆဲဥပဒေများက ခွင့်ပြုထားသော ခုနှိမ်မှုများ၊ ကင်းလွတ်မှုများ၊ သွင်းကုန်အကောက်ခွန်၊ အခွန်များနှင့် စပ်လျဉ်းသော အခွင့်အရေးများ ရရှိအောင်ကူညီရမည်။

(ဂ) မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေ၊ နည်းဥပဒေများနှင့်အညီ ကျင့်သုံးနိုင်ရန် ကူညီပေးရမည်။

(ဃ) **"ကုန်းလမ်းပို့ဆောင်ရေး"** သည် စီမံကိန်းအတွက် အဆောက်အဦးများ တည်ဆောက်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ပိုလ်တစ်ထောင်မြို့နယ်တွင် ၂. ၄၄ ဧက နှင့် တာမွေ မြို့နယ်၊ ကျိုက္ကဆံအခြေစိုက်စခန်းတွင် ၁. ၅၆ ဧက တို့ကို ငှားရမ်းရမည်။

(င) **"ကုန်းလမ်းပို့ဆောင်ရေး"**သည် ကုမ္ပဏီတည်ထောင်ရန်နှင့် စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်နိုင်ရန်အတွက် ဝန်ကြီးဌာန၏သဘောတူခွင့်ပြုချက်ကို ရယူပေးရမည်။ နှစ်ဦးနှစ်ဖက်တို့သည် အပိုဒ်(၄)တွင် ဖော်ပြထားသော ကုမ္ပဏီ တည်ထောင်ခြင်းနှင့် လုပ်ငန်းဆောင်ရွက်ရန်အတွက် ဝန်ကြီးဌာန၏ခွင့်ပြုချက်တွင် ဖော်ပြပါရှိချက်များ အရ **"ကုန်းလမ်းပို့ဆောင်ရေး"**မှ ကူညီမှုများ၊ ပူးပေါင်းဆောင်ရွက်မှုများကို **"ကုန်းလမ်းပို့ဆောင်ရေး"**မှဖြည့်ဆည်းမပေးမီနှင့်ဖြည့်ဆည်းမပေးလျှင် သို့မဟုတ် **"စန်းရောင်နီကုမ္ပဏီလီမိတက်"**မှစာဖြင့်ရေးသား လျှော့ပေါ့မပေးလျှင်နှင့် မပေးမီ နှစ်ဦးနှစ်ဖက်တို့သည် ၄င်းတို့ ဖက်စပ်ကုမ္ပဏီသို့ထည့်သွင်းရမည့် အရင်းအနှီးများ ထည့်ဝင်ရန် တာဝန်မရှိစေရပါ။

## အပိုဒ်(၁၃) အစုရှယ်ယာလွှဲပြောင်းခြင်း

၁၃-၀၁ မည်သည့်တစ်ဦးတစ်ဖက်သည် အစုရှယ်ယာများ၏ အားလုံးကိုလည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုလည်းကောင်း၊ အခြားတစ်ဖက်၏ကြိုတင်ရေးသား သဘောတူညီချက် မပါဘဲ အစုရှယ်ယာများကို ရောင်းချခြင်း၊ လွှဲပြောင်းခြင်း၊ တာဝန်ပေးခြင်း (သို့မဟုတ်)

တစ်နည်းနည်းဖြင့် ရောင်းချခြင်း မပြုစေရ။ တစ်ခြားတစ်ဖက်သည် မိမိတို့၏ ငြင်းပယ်ချက်ကို ရှင်းလင်းပြရန်လိုပါသည်။

၁၃-၀၂ အထက်ပါအပိုဒ် ၁၃-၀၁ တွင်ဖော်ပြထားသည့်အတိုင်း တဖက်ဖက်သည် မိမိအစုရှယ်ယာများကို အားလုံးသော်လည်းကောင်း၊ တစ်စိတ်တဒေသသော်လည်းကောင်း၊ ရောင်းချခြင်း၊ လွှဲပြောင်းခြင်း၊ တာဝန်ပေးခြင်း၊ အခြားနည်းဖြင့် ရောင်းချခြင်းပြုလိုပါက ၎င်းသည် တခြားတဖက်သို့ စာဖြင့်ရောင်းချလိုကြောင်း ဈေးနှုန်းနှင့် ရောင်းချမှုစည်းကမ်းများကို ဖော်ပြ၍ ဝယ်ယူလိုခြင်း ရှိ/မရှိ မေးမြန်းရမည်။

၁၃-၀၃ အကယ်၍ အစုရှယ်ယာရောင်းချလိုသောဘက်က အထက်အပိုဒ် ၁၃-၀၂ အရ အကြောင်းကြားလာမှုကို အခြားတဖက်မှ ငြင်းဆန်လျှင်လည်းကောင်း (သို့မဟုတ်) အကြောင်းကြားပြီး ရက်ပေါင်း(၃၀)အတွင်း စာဖြင့်ပြန်ကြားခြင်းမရှိပါက ရောင်းချလိုသောဘက်သည် ပြင်ပပုဂ္ဂိုလ်အား အစုရှယ်ယာရောင်းချခြင်း၊ လွှဲပြောင်းခြင်း၊ တာဝန်လွှဲခြင်းနှင့် အခြားနည်းဖြင့် ရောင်းချခြင်းပြုနိုင်သည်။ သို့သော် ပြင်ပပုဂ္ဂိုလ်သို့ ရောင်းချမည့်ဈေးနှုန်းနှင့် အချက်အလက်များသည် ၎င်းအဆိုပြုထားသော အချက်အလက်ထက် အခွင့်အလမ်းမသာစေရပါ။ ထို့ပြင် အဆိုပါ ပြင်ပပုဂ္ဂိုလ်သည် ဤသဘောတူညီချက်တွင် ဖော်ပြထားသော အချက်များကိုလိုက်နာနိုင်ကြောင်း စာဖြင့်ရေးသားတင်ပြရမည်။

၁၃-၀၄ ဤစာချုပ်ပါ ပြဋ္ဌာန်းချက်များအရမဟုတ်ပဲ အစုရှယ်ယာများလွှဲပြောင်းခြင်း ပြုလုပ်လာပါက ဝန်ကြီးဌာနသို့ ကြိုတင်ခွင့်ပြုချက် ရယူရမည်။

## အပိုဒ်(၁၄) အမြတ်ခွဲဝေခြင်း

၁၄-၀၁ ထည့်ဝင်ထားသောရှယ်ယာအချိုးအစားအရ ကုမ္ပဏီ၏ ခွဲဝေသင့်သော အမြတ်အနက်မှ **"ကုန်းလမ်းပို့ဆောင်ရေး"**သည် ၄၃% နှင့် **"စန်းရောင်နီကုမ္ပဏီလီမိတက်"**သည် ၅၇% ရရှိမည်ဖြစ်သည်။ မြေငှားရမ်းထား သည့် အနှစ်(၃၀)အနက်မှ နောက်ဆုံး (၅)နှစ်တွင် အကျိုးခံစားခွင့်၃%(Dividend3%)ကို "အငှားချထားခြင်းခံရသူ" (ဖက်စပ်ကုမ္ပဏီ)မှ "အငှားချထားသူ"**(ကုန်းလမ်းပို့ဆောင်ရေး)**သို့ မြေငှားရမ်းခ အဖြစ်ထပ်မံတိုးမြှင့်ထုတ်

ပေးပြီးကျန်ရှိသော အမြတ်ငွေအား ထည့်ဝင်ထားသော ရှယ်ယာ အမျိုးအစားအတိုင်း ရရှိမည်ဖြစ်သည်။

၁၄-၀၂ ကုမ္ပဏီ၏ခွဲဝေပေးရမည့်အမြတ်ကို ဆုံးဖြတ်ရာတွင် ဘဏ္ဍာရေးနှစ်အရ တွက်ချက်ပြီး မြန်မာနိုင်ငံတွင် ကျင့်သုံးသောစာရင်းကိုင်စံနှုန်း (MFRS FOR SMES)များနှင့်အညီ တွက်ချက်ရမည်။

၁၄-၀၃ ကုမ္ပဏီ၏အမြတ်ကို နှစ်အလိုက်ခွဲဝေပေးရမည့်ကိစ္စရပ်တွင် ကုမ္ပဏီသည် နှစ်အလိုက် အထွေထွေ အစည်းအဝေးပြီးပြီးချင်း အစည်းအဝေးဆုံးဖြတ်ချက်နှင့် အဆိုပါနှစ်၏ ခွဲဝေရန်သင့်တော်သည့် အမြတ်ကို အမျိုးအစားအလိုက် ခွဲဝေပေးရမည်။

၁၄-၀၄ ဝင်ငွေခွန်နုတ်ပြီး အမြတ်ငွေကို မြန်မာကျပ်ဖြင့် တွက်ချက်ပြီးဘဏ္ဍာငွေအခြေအနေအရ ခွဲဝေပေးရမည်။

၁၄-၀၅ ဖက်စပ်ကုမ္ပဏီ၏ သင်းလုံးကျွတ်အစည်းအဝေးတွင် အစုရှင်များအား ခွဲဝေမည့်အမြတ် ဝေစုကိုကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာအဖွဲ့၏ ထောက်ခံသော ငွေပမာဏထက်မကျော်လွန်စေရပါ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြား မခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရပါ။

## အပိုဒ်(၁၅) လွှမ်းမိုးရန် သဘောတူညီချက်

၁၅-၀၁ နှစ်ဦးနှစ်ဖက်သည် ကုမ္ပဏီ၏သင်းဖွဲ့စည်းမျဉ်းကို နှစ်ဦးနှစ်ဖက် သဘောတူညီထားသော ပုံစံဖြင့် ရေးဆွဲအသုံးပြုရမည်။ သို့သော် ဤသဘောတူညီချက်ပါ အချက်အလက်များနှင့် ကိုက်ညီစေရမည်။

၁၅-၀၂ အကယ်၍ သဘောတူညီချက်ပါ အချက်အလက်များနှင့် သင်းဖွဲ့စည်းမျဉ်းပါ အချက် အလက်များအကြား အဓိပ္ပါယ်ဖွင့်ဆိုရန် ခက်ခဲခြင်း(သို့မဟုတ်) ဆန့်ကျင်စရာအချက်များ ဖြစ်ပေါ်လျှင် ဤသဘောတူညီချက်စာချုပ်ပါ အချက်အလက်ကိုသာ လက်ခံဆောင်ရွက် ရမည်။ အကယ်၍သဘောတူစာချုပ်နှင့် သင်းဖွဲ့စည်းမျဉ်းအကြား ဆန့်ကျင်မှုရှိပါက သင်းဖွဲ့ စည်းမျဉ်းကို ပြင်ဆင်ရန် ဆောင်ရွက်ရမည်။

## အပိုဒ်(၁၆) စာချုပ်သက်တမ်း

၁၆-၀၁ ဤစာချုပ်၏ သက်တမ်းမှာ ကနဦး(၃၀)နှစ်ဖြစ်ပြီး၊ စာချုပ်ဝင် နှစ်ဖက်သဘောတူညီလျှင် စာချုပ်သက်တမ်းကို တစ်ကြိမ်လျှင်(၁၀)နှစ်စီဖြင့်နှစ်ကြိမ် တိုးမြှင့်နိုင်သည်။ ၎င်းအနှစ် (၃၀) မစေ့ရောက်မှီအနည်းဆုံး(၁)နှစ်အလိုတွင် စာချုပ်ကိုသက်တမ်းတိုးရန် နှစ်ဦးနှစ်ဖက် တွေ့ဆုံဆွေးနွေး ၍လျှောက်ထားရမည်။

## အပိုဒ်(၁၇) ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ

၁၇-၀၁ ဖက်စပ်ကုမ္ပဏီသည် ၁၉၁၄ ခုနှစ် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေနှင့် ၁၉၅၀ ပြည့်နှစ် အထူးကုမ္ပဏီအက်ဥပဒေအရခွင့်ပြုထားသော အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များမှအပ သီးခြားအခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအား လျှောက်ထားခြင်း မပြုပါ။

## အပိုဒ်(၁၈) အာမခံထားရှိခြင်း

၁၈-၀၁ မြန်မာ့အာမခံဥပဒေ အရ အားလုံးသော လိုအပ်သည့်၊ အာမခံ စနစ်အမျိုးမျိုးကို အာမခံထားရှိရမည်။

## အပိုဒ်(၁၉) စတင်အာဏာသက်ရောက်မည့်နေ့နှင့် အချိန်ကာလ

၁၉-၀၁ ဤသဘောတူညီချက်၏ကာလမှာ စာချုပ်အတည်ဖြစ်သည့်နေ့မှ နှစ်ပေါင်း(၃၀) အထိ ဖြစ်သည်။ ၎င်းအနှစ်(၃၀)မစေ့ရောက်မှီ အနည်းဆုံး(၁)နှစ်အလိုတွင် စာချုပ်ကို သက်တမ်းတိုးရန် နှစ်ဦးနှစ်ဖက်တွေ့ဆုံဆွေးနွေးရမည်။ အကယ်၍သဘောတူညီချက် စာချုပ်ကို သက်တမ်းတိုးမြှင့်ရန် စာချုပ်ဝင် နှစ်ဖက်သဘောတူညီပါက တစ်ကြိမ်လျှင် (၁၀)နှစ် သက်တမ်း ဖြင့် သက်တမ်း (၂)ကြိမ် တိုးနိုင်သည်။

## အပိုဒ်(၂၀) မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

၂၀-၀၁ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျှောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေးစသည့်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်

ချက်များ၊ တရားဥပဒေ စိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ယင်း မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် စန်းရောင်နီကုမ္ပဏီသည်ကုန်းလမ်းပို့ဆောင်ရေးသို့နစ်နာဆုံးရှုံးမှု အတွက်လျော်ကြေး တောင်းခွင့်မရှိစေရ။ ထိုသို့မလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်လာ ပါက၊ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့်အချိန်မှ(၁၄)ရက်အတွင်း စန်းရောင်နီကုမ္ပဏီသည် ကုန်းလမ်းပို့ဆောင်ရေးသို့ ချက်ချင်းစာဖြင့် ရေးသား အကြောင်းကြား ရမည်၊ ကုန်းလမ်းပို့ဆောင်ရေးက လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်ပြီး၊ ဖြတ်တောက်ကာလ အပိုင်း အခြား အတွက် သက်သာခွင့်ပြုနိုင်သည်။

## အပိုဒ် (၂၁) စာချုပ်ပါရပိုင်ခွင့်နှင့် တာဝန်ဝတ္တရားများ သတ်မှတ်ခြင်း

၂၁-၀၁ ဤစာချုပ်ပါ ရပိုင်ခွင့်နှင့် တာဝန်ဝတ္တရားများကို တခြားတဘက်၏ ကြိုတင်ရေးသား ထားသော သဘောတူညီချက်ဖြင့် သတ်မှတ်နိုင်သည်။

၂၁-၀၂ အထက်ပါ တာဝန်သတ်မှတ်ချက်သည် နှစ်ဖက်အသီးသီး၏ သဘောတူညီချက်ရရှိမှသာ အတည်ဖြစ်သည်။

## အပိုဒ်-၂၂ စာချုပ်အတည်ဖြစ်ခြင်း

၂၂-၀၁ ဤစာချုပ်သည် အသိသက်သေများ ရှေ့မှောက်တွင်စာချုပ်ဝင် နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသော နေ့ရက်မှစ၍ အတည်ဖြစ်သည်။

## အပိုဒ်(၂၃) စာချုပ်ကို ပြန်လည်ညှိနှိုင်းခြင်း

၂၃-၀၁ စာချုပ်တွင် ဖော်ပြပါရှိခြင်းမရှိသော ကိစ္စရပ်များကြောင့် ဖြစ်ပေါ်မှုတစ်ရပ်ရပ် သို့မဟုတ် အခြေအနေ တစ်ရပ်ရပ်ပေါ်ပေါက်ပြီး၊ စာချုပ်ကိုပြင်ဆင်ရန် လိုအပ်ပါက စာချုပ်ဝင်

များသည် လိုအပ်သော ညှိနှိုင်းမှုများကို ပြုလုပ်၍ ဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက် ရယူပြီး စာချုပ်ကို ပြင်ဆင်ခွင့်ရှိသည်။

## အပိုဒ်(၂၄) စာချုပ် ရပ်စဲခြင်း

၂၄-၀၁ ဤသဘောတူစာချုပ်သည် အောက်ပါကိစ္စရပ် တစ်ရပ်ရပ်ဖြစ်ပေါ်လာပါက သဘောတူစာချုပ်ကို ရပ်စဲနိုင်သည်။

(က) ဤသဘောတူစာချုပ်တွင် ဖော်ပြထားသောတာဝန်ဝတ္တရားများကို ပြည့်စုံစွာ တာဝန်မယူနိုင်ခြင်း။

(ခ) မလွန်ဆန်နိုင်သော ဖြစ်ရပ်သည် (၆)လကျော်လွန်ပြီး ဆက်တိုက်ဖြစ်ပေါ်ခြင်း။

(ဂ) ဖက်စပ်ကုမ္ပဏီသည်အရှုံးငွေ အမြောက်အများဖြစ်ပေါ်လာခြင်းနှင့် အဆက်မပြတ် အရှုံးပေါ်နေခြင်း။

(ဃ) ဖက်စပ်ကုမ္ပဏီ၏ မူလရည်ရွယ်ချက်နှင့် ရည်မှန်းချက်များကို အကောင်အထည် ဖော်ရန်မဆောင်ရွက်နိုင်တော့ခြင်း။

(င) နှစ်ဖက်အဖွဲ့ဝင်များအချင်းချင်း၊ လုပ်ငန်းရပ်စဲရန် စာဖြင့်ရေးသားသဘောတူခြင်း။

၂၄-၀၂ စာချုပ်တွင်လက်မှတ်ရေးထိုးသည့်အဖွဲ့ဝင်များအနက် တစ်ဦးဦးကဆက်လက်ဆောင်ရွက်ရန် ဆန္ဒမရှိ၍သော်လည်းကောင်း၊ တစ်ဖက်ဖက်မှ ဤစာချုပ်ပါ အချက်အလက်များ ဖေါက်ဖျက် ကျူးလွန်ခြင်းကို အခိုင်အမာ သက်သေပြနိုင်လျှင် သော်လည်းကောင်း၊ တရားဝင်စာဖြင့် ရက်ပေါင်း(၉၀)ကြိုတင်အသိပေးပြီး ရပ်စဲနိုင်သည်။

၂၄-၀၃ စာချုပ်ရပ်စဲခြင်းသည် နှစ်ဦးနှစ်ဖက် သဘောတူညီမှုရရှိပြီး၊ သက်ဆိုင်ရာဌာန ၏ အတည်ပြုချက်ရရှိပြီးနောက် တည်ဆဲတရားဥပဒေများနှင့်အညီ ဆောင်ရွက်မှသာ အကျိုး သက်ရောက်မှုရှိသည်။

၂၄-၀၄ စာချုပ်ကို သက်တမ်းမကုန်ဆုံးမီ စာချုပ်ရပ်စဲလိုပါကလည်း (၁၉၁၄)ခုနှစ် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေနှင့် (၁၉၅၀)ပြည့်နှစ်အထူးကုမ္ပဏီ အက်ဥပဒေနှင့်အညီ ရပ်စဲ ဖျက်သိမ်းရမည်။

၂၄-၀၅ အကယ်၍ တဖက်ဖက်သည် စာချုပ်ပါအတိုင်း လုပ်ငန်းဆောင်ရွက်ရာတွင် အမှား ပြုလုပ်ပါက ၎င်းကိုအခြားတဖက်မှတွေ့ရှိပြီး ၎င်းအခြားတဖက်မှ စာဖြင့်သတိပေးသည့် နေ့မှရက်ပေါင်း(၃၀)အတွင်း ပြုပြင်မှုမရှိပါက အခြားတဖက်သည် စာဖြင့်အကြောင်း ကြားပြီး သဘောတူစာချုပ်ကို ရပ်စဲနိုင်သည်။

၂၄-၀၆ အကယ်၍ကုမ္ပဏီသည် လူမွဲအဖြစ် ခံယူသော်လျှင်လည်းကောင်း၊ ပြန်လည်ဖွဲ့စည်းလျှင် သော်လည်းကောင်း၊ မြီရှင်များနှင့် ပတ်သက်၍သော်လည်းကောင်း၊ စာရင်းရှင်းလင်း ဖျက်သိမ်း၍ သော်လည်းကောင်း၊ ၎င်းနှင့်တူညီသောဆောင်ရွက်မှုများ ဖြစ်ပွားလျှင်သော် လည်းကောင်း၊ ကုမ္ပဏီ၏ပစ္စည်းများကိုလူမွဲအဖြစ်ခံယူရန် ပစ္စည်းထိန်း၏ လက်ဝယ် အပ်နှံ ပြီး ၎င်းအပ်နှံမှုကို ပစ္စည်းထိန်းက ရက်ပေါင်း(၃၀)အတွင်း မဆောင်ရွက်နိုင်လျှင် လည်းကောင်း၊ ပစ္စည်းထိန်းခန့်ထားလျှင်သော်လည်းကောင်း၊ မည်သည့်ကိစ္စဖြစ်ပွားလျှင် ဖြစ်စေ **"ကုန်းလမ်းပို့ဆောင်ရေး"** ဘက်မှလည်းကောင်း၊ **"စန်းရောင်နီ ကုမ္ပဏီ လီမိတက်'** ဘက်မှလည်းကောင်း၊ ရက်ပေါင်း(၃၀)အတွင်းစာဖြင့် အသိပေး၍စာချုပ်ကို ရပ်စဲနိုင်သည်။

၂၄-၀၇ ဤသဘောတူစာချုပ် အပိုဒ်(၂၄-၀၅)တွင် ရပ်စဲခြင်းနှင့်ပတ်သက်၍ အခြားတဘက်သို့ ရပ်စဲသည့်နေ့တွင်ဖြစ်စေ၊ နောက်ပိုင်းတွင်ဖြစ်စေ ဆုံးရှုံးမှုကိုပြန်လည် တောင်းခံရန်အခွင့် အလမ်းရှိသည်။ အမှန်တကယ်ဆုံးရှုံးမှုမှအပ ကျန်ဆုံးရှုံးမှုများကို ဤသဘောတူစာချုပ် အပိုဒ်(၂၄-၀၅)အရ စာချုပ် ရပ်စဲပြီးမှသာ တောင်းခံနိုင်ပါသည်။

## အပိုဒ်-၂၅ စာချုပ်ရပ်စဲခြင်း၏ အကျိုးသက်ရောက်မှု

၂၅-၀၁ မလွန်ဆန်နိုင်သောဖြစ်ရပ်နှင့် ပတ်သက်ပြီး စာချုပ်ရပ်စဲ ခြင်းကိစ္စရပ်နှင့် စပ်လျဉ်း ၍ ကျန်တခြားတဘက်က စာချုပ်ကိုမရပ်စဲပဲ ဆက်လက်ဆောင်ရွက်နိုင်သည်။ အကယ်၍ ဤသို့ ဆက်လက်ဆောင်ရွက်လျှင် တခြား တဘက်သို့ ပေါက်စျေး ဖြင့် အစုရှယ်ယာများ ကိုလွှဲပြောင်းရယူနိုင်ရန်ဆွေးနွေးနိုင်သည်။အကယ်၍နှစ်ဦးနှစ်ဘက်သည်ရက်ပေါင်း(၃၀) အတွင်းအစုရှယ်ယာများကိုလွှဲပြောင်းပေးရန်ဆောင်ရွက်နိုင်ခြင်းမရှိပါက နှစ်ဦးနှစ်ဘက် သည် သာမန်မဟုတ်သော အထူးအစည်းအဝေးတွင် ကုမ္ပဏီအား ဖျက်သိမ်းရန် ချက်ချင်းမဲပေး နိုင်သည်။

၂၅-၀၂ ဤစာချုပ်အပိုဒ် ၂၄-၀၅၊ ၂၄-၀၆ နှင့်အညီ စာချုပ်ရပ်စဲသည့်ကိစ္စနှင့် စပ်လျဉ်း၍ အပိုဒ် ၂၅-၀၁ အခွင့်အရေးများအရ လိုက်နာဆောင်ရွက်ခြင်း မရှိလျှင် နှစ်ဦးနှစ်ဖက် တို့သည် ကုမ္ပဏီအားဖျက်သိမ်း၍ ကျန်ရှိသောပစ္စည်းများကို ၎င်းတို့ထည့်ဝင်ထားသော မတည်ငွေ အချိုးအစားတိုင်း ဖြစ်နိုင်သမျှ အမြန်ဆုံးခွဲဝေရမည်။

၂၅-၀၃ ဤစာချုပ်အပိုဒ် ၂၅-၀၁ တွင် ဖော်ပြထားသော ပေါက်ဈေးဆိုသည်မှာ ဝယ်ယူရန်အဆိုပြုလာသည့်ဘက်က အခြားတဘက်နှင့် ညှိနှိုင်းသဘောတူသည့် ဈေးနှုန်းဖြစ်ပါသည်။

၂၅-၀၄ အကယ်၍ဤစာချုပ်ရပ်ဆိုင်းပါက **“စန်းရောင်နီကုမ္ပဏီလီမိတက်”** ၏အဆိုပြု ချက်အရလည်းကောင်း၊အကယ်၍ **“စန်းရောင်နီကုမ္ပဏီလီမိတက်”**သည် မိမိ၏အစုရှယ်ယာများအားလုံး(သို့မဟုတ်)တစိတ်တဒေသကို **“ကုန်းလမ်းပို့ဆောင်ရေး”**သို့လွှဲပြောင်းသည့်အခါတွင်လည်းကောင်း၊ **“စန်းရောင်နီကုမ္ပဏီလီမိတက်”**၏ပတ်သက်မှုကိုပယ်ဖျက်နိုင်စေ ရန်အတွက် နှစ်ဦးနှစ်ဖက်တို့သည် ကုမ္ပဏီအမည်ကို ပြောင်းလဲရမည်။

## အပိုဒ်(၂၆) အထွေထွေ

၂၆-၀၁ **ကုမ္ပဏီဖွဲ့စည်းခြင်း၏ အသုံးစရိတ်**

ကုမ္ပဏီတည်ထောင်ရန်အတွက် ကုန်ကျသည့်ကနဦး အသုံးစရိတ်များကို ဒါရိုက်တာအဖွဲ့၏ သဘောတူညီချက်ဖြင့် ကုမ္ပဏီက ကျခံရမည်။

၂၆-၀၂ ဤစာချုပ်ပါ ပြဋ္ဌာန်းချက်များသည် မြေငှားစာချုပ်ပါ ပြဋ္ဌာန်းချက်များနှင့်သော် လည်းကောင်း၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းတို့တွင် ဖော်ပြပါရှိချက်များနှင့် သော်လည်းကောင်း၊ ညီညွတ်မှုမရှိပါက ဤစာချုပ်ပါ ပြဋ္ဌာန်းချက်များက လွှမ်းမိုးသည်။

၂၆-၀၃ ဤစာချုပ်နှင့် နောက်ဆက်တွဲ ပုံစံများ၊ စာရင်းဇယားများသည် ဤစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်စေရမည်။

၂၆-၀၄ **ဆက်သွယ်ဆောင်ရွက်မှု**

နို့တစ်စာများ(သို့မဟုတ်) အခြားအချက်အလက် အကြောင်းကြားခြင်း(သို့မဟုတ်) တခြားနည်းဖြင့် ဆက်သွယ်ခြင်းကို မြန်မာဘာသာဖြင့် ရေးသား၍ ကိုယ်တိုင်ပေးအပ်ခြင်း

(သို့မဟုတ်) မှတ်ပုံတင်စာဖြင့် ပေးပို့ခြင်းဖြင့် ဆက်သွယ်ပေးပို့ရမည်။ ထိုသို့ ဆက်သွယ်ရာတွင် အောက်ပါလိပ်စာ(အကယ်၍သက်ဆိုင်ရာပုဂ္ဂိုလ်ကစာဖြင့်အခြားသူ (သို့မဟုတ်) လိပ်စာအား လွှဲပြောင်းထားသည့်ကိစ္စမှအပ) ပေးပို့ရမည်-

**စန်းရောင်နီ ကုမ္ပဏီလီမိတက်သို့ ပေးပို့လျှင်**
**မန်နေဂျင်း ဒါရိုက်တာ**
**အမှတ်-၁၉၆၊ ၇၉ လမ်း၊ ၃၂လမ်းနှင့်၃၃လမ်းကြား၊**
**ချမ်းအေးသာဇံမြို့နယ်၊မန္တလေးတိုင်းဒေသကြီး။**
**ကုန်းလမ်းပို့ဆောင်ရေး သို့ပေးပို့လျှင်**
**ဦးဆောင်ညွှန်ကြားရေးမှူး၊**
**ကုန်းလမ်းပို့ဆောင်ရေး**
**ရုံးအမှတ်(၂၉) နေပြည်တော်။**

## အပိုဒ်(၂၇) အငြင်းပွားမှုဖြေရှင်းခြင်း

၂၇-၀၁ ဤသဘောတူစာချုပ်နှင့် ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက် ပြေလည်စွာ ညှိနှိုင်းဖြေရှင်းစေမည်။ ထိုသို့ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်တစ်ဦးစီခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့်ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံရုံးလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ်ကို ခံယူရမည်။ ခုံရုံးလူကြီးနှစ်ဦး(သို့မဟုတ်)သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးအပြတ်ဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များအပေါ်၌လည်း အတည်ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံ အနုညာတစီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ(မြန်မာနိုင်ငံ အက်ဥပဒေ အမှတ်၊ ၄/၁၉၄၄)နှင့် နောက်ပိုင်းထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အနုညာတ စီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့ ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံ ရမည်။

## အပိုဒ်(၂၈) စီးပွားရေးဆိုင်ရာလျှို့ဝှက်ချက်များ

၂၈-၀၁ တစ်ဦးတစ်ဖက်သည် တစ်ဦးနှင့် တစ်ဦးယုံကြည်မှုကို ကိုင်စွဲလျက် ကုမ္ပဏီပိုင်ဆိုင်သော သတင်းအချက်အလက်များ၊ အသိပညာလျှို့ဝှက်ချက်များ၊ စီးပွားရေးဆိုင်ရာ လျှို့ဝှက်ချက်များကို အခြားသူတစ်ဦးတစ်ယောက်သို့ မည်သည့် အကြောင်းနှင့်မျှပြောကြားခြင်း၊ ပေးကမ်းခြင်း၊ အသိပေးရန်ခွင့်ပြုခြင်းများ မပြုလုပ်ရ။ တစ်ဖက်ဖက်မှ လိုက်နာရန် အချက်များကို ဖောက်ဖျက်ပါက ဤစာချုပ်ကို ရပ်စဲသည်အထိ ဖောက်ဖျက်သည့်ဘက်တွင် တာဝန်ရှိသည်။

## အပိုဒ်(၂၉) ပြင်ဆင်ခြင်း

၂၉-၀၁ ဤစာချုပ်ကို ပြင်ဆင်လိုပါက စာချုပ်ဝင်နှစ်ဦးနှစ်ဖက် စာဖြင့်ရေး သားလက်မှတ်ထိုး၍ ဝန်ကြီးဌာန၏ သဘောတူခွင့်ပြုချက်ဖြင့် ပြင်ဆင်နိုင်သည်။

## အပိုဒ်(၃၀) စွန့်လွှတ်ခြင်း

၃၀-၀၁ ဖက်စပ်စာချုပ်ပါ စာချုပ်ဝင်တစ်ဖက်က ဆောင်ရွက်ရမည့် တာဝန်တစ်ရပ်ရပ်ကို အကောင်အထည်မဖော်ခြင်းအား အခြားတစ်ဖက်စာချုပ်ဝင်က တစ်ကြိမ်တစ်ခါအရေး မယူဘဲနေရုံဖြင့် မိမိ၏အရေးယူပိုင်ခွင့်ကို စွန့်လွှတ်သည်ဟု မယူဆရန်နှင့်ယင်းတာဝန်အပါအဝင် အခြားစည်းကမ်းချက်များအား ချိုးဖောက်ပါကနစ်နာသူ စာချုပ်ဝင်အနေဖြင့် အရေးယူခွင့် ရှိရမည်။

## အပိုဒ်(၃၁) စာချုပ်ချုပ်ဆိုခြင်း

၃၁-၀၁ ဤသဘောတူစာချုပ်ကို မြန်မာဘာသာဖြင့်ရေးသားရမည်။ ယင်းဘာသာစကားသည် အခြားဘာသာဖြင့် ဘာသာပြန်ရေးသားမှုများကို လွှမ်းမိုးစေရမည်။

## အပိုဒ်(၃၂) ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

၃၂-၀၁ ကုမ္ပဏီသည် စီမံကိန်းတည်ရှိရာနေရာနှင့် ပတ်ဝန်းကျင်ကိုတည်ဆဲဥပဒေများနှင့်အညီ ထိန်းသိမ်းရန် တာဝန်ရှိသည်။ ၎င်းပတ်ဝန်းကျင်ထိန်းသိမ်းမှုတွင် လေထု၊ ရေထု နှင့်

မြေထု ညစ်ညမ်းမှုအပြင် ပတ်ဝန်းကျင် ယိုယွင်းပျက်စီးမှုတို့ကို ထိန်းသိမ်းရန်ဖြစ်သည်။ ထို့ပြင် ၎င်းပတ်ဝန်းကျင် ထိန်းသိမ်းမှုကို လိုအပ်သလို ဆောင်ရွက်ရန်ဖြစ်သည်။

အောက်ပါသက်သေများရှေ့တွင် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် ဤသဘောတူညီချက်ကို လိုက်နာဆောင်ရွက်နိုင်ရန်အတွက် လက်မှတ်ထိုး၍ မိတ္တူကို၎င်းတို့၏တရားဝင်အရာရှိ၊ ကိုယ်စားလှယ်များအား ယခုလက်မှတ် ရေးထိုးသောနေ့တွင် ပေးအပ်လိုက်သည် -

| | |
|---|---|
| **စန်းရောင်နီကုမ္ပဏီ** | **ကုန်းလမ်းပို့ဆောင်ရေး** |
| **( ကိုယ်စား)** | **( ကိုယ်စား )** |
| **ဦးအောင်ကျော်မြင့်** | **ဦးစန်းမြင့်ဦး** |
| **မန်နေဂျင်းဒါရိုက်တာ** | **ဦးဆောင်ညွှန်ကြားရေးမှူး** |

အသိသက်သေ

| | |
|---|---|
| (၁) [illegible] | (၁) [illegible] |
| (၂) [illegible] | (၂) [illegible] |

# ရထားပို့ဆောင်ရေးဝန်ကြီးဌာန
# ကုန်းလမ်းပို့ဆောင်ရေး

# နှင့်

# ခန်းရောင်ခ်ီ ကုန်းလမ်းပို့ဆောင်ရေး
# ကုမ္ပဏီလီမိတက်

တို့အကြားချုပ်ဆိုသည့်

# မြေငှားစာချုပ်

**ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊**
**ကုန်းလမ်းပို့ဆောင်ရေး နှင့်**
**စန်းရောင်နီ ကုန်းလမ်းပို့ဆောင်ရေးကုမ္ပဏီလီမိတက်**
**တို့အကြား ချုပ်ဆိုသည့်**

# မြေငှားစာချုပ်

ဤမြေငှားစာချုပ်ကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံ၊ နေပြည်တော်၌ ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ (   )ရက်နေ့၌ ဦးဆောင်ညွှန်ကြားရေးမှူး ဦးစန်းမြင့်ဦးကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာ နိုင်ငံတော်အစိုးရ ရထားပို့ဆောင်ရေးဝန်ကြီးဌာနအောက်ရှိ နိုင်ငံပိုင်လုပ်ငန်းတစ်ခု ဖြစ်သော **"ကုန်းလမ်းပို့ဆောင်ရေး"** (နောင်တွင်**"အငှားချထားသူ"**ဟု ခေါ်တွင်စေရမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်းအား ဆက်ခံသူများနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများ ပါဝင်သည် )က တစ်ဖက်နှင့်

**" စန်းရောင်နီ ကုန်းလမ်းပို့ဆောင်ရေး ကုမ္ပဏီလီမိတက် "** ၏ မန်နေဂျင်းဒါရိုက်တာ ဦးအောင်ကျော်မြင့်က ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ တည်ထောင်ထားသော ရှယ်ယာများဖြင့် ကန့်သတ်ထားသည့် အများနှင့် မသက်ဆိုင်သည့် **"စန်းရောင်နီ ကုန်းလမ်းပို့ဆောင်ရေး ကုမ္ပဏီလီမိတက်"** (နောင်တွင် **"အငှားချထားခြင်းခံရသူ"** ဟု ခေါ်တွင်ရမည်) ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်းအားဆက်ခံသူများ၊ တရားဝင် ကိုယ်စားလှယ်များနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများ ပါဝင်သည်)က တစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များနှင့်အညီ ဤသဘောတူစာချုပ်ကို ချုပ်ဆိုကြပါသည်။

## အပိုဒ်-၁ ရည်ရွယ်ချက်

၁-၀၁ ဤစာချုပ် ချုပ်ဆိုခြင်း၏ ရည်ရွယ်ချက်မှာ နောက်ဆက်တွဲ(က)တွင် ဖော်ပြထားသော မြေနေရာတွင် အောက်ဖော်ပြပါ လုပ်ငန်းများကို ဆောင်ရွက်ရန် ရည်ရွယ်ပါသည်-

(က) မြို့တွင်းပြေးဘတ်စ်ကား (City Buses) များတည်ထောင်ပြေးဆွဲခြင်း။

(ခ) စီးလုံးငှားယာဉ် (Rental Service) သင်တန်းကျောင်းသုံးအငှားယာဉ် (Training Taxi)နှင့် အငှားယာဉ် (Taxi)များ လုပ်ငန်းထူထောင် ပြေးဆွဲခြင်း။

(ဂ) မော်တော်ယာဉ်ပြင်ဆင်ထိန်းသိမ်းရေး နှင့် စစ်ဆေးရေး အလုပ်ရုံများ ဖွင့်လှစ် ဆောင်ရွက်ခြင်း။

(ဃ) နိုင်ငံတကာ အဆင့်မှီအဆင့်မြင့် (BusTerminal)များ တည်ဆောက်ခြင်းနှင့် လုပ်ကိုင်ခြင်း။

(င) ပို့ဆောင်ရေးအတွက် လိုအပ်သော လောင်စာဆီ အပါအဝင် ပို့ဆောင်ရေးနှင့် ဆက်နွယ်သော လုပ်ငန်းများအားလုံးကို ဖွင့်လှစ်ခြင်း၊ ငှားရမ်းခြင်း။ နောင်တွင် ၎င်း စီမံကိန်းကို (Project) ဟုခေါ် ဆိုသုံးနှုန်း ပါမည်။

၁-၀၂ **"အငှားချထားသူ"**သည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရ၏ ခွင့်ပြုချက်အရ နောက်ဆက်တွဲ(က)တွင် ဖော်ပြထားသည့်မြေများကို **"အငှားချထားခြင်းခံရသူ"**အား ငှားရမ်းရန် ဆန္ဒရှိလျက် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံအတွက် ရင်းနှီးမြှုပ်နှံမှု တိုးမြှင့်စေခြင်းဖြင့် ကုန်းလမ်းပို့ဆောင်ရေး အားဖွံ့ဖြိုးတိုးတက် စေရန်ဖြစ်ပါသည်။ **"အငှား ချထားခြင်းခံရသူ"** ဖက်စပ်ကုမ္ပဏီသည် ကုန်းလမ်းပို့ဆောင်ရေး လုပ်ငန်း၏ရည်ရွယ်ချက်များ အောင်မြင်စေရေးအတွက် ထူးခြားသည့် စည်းကမ်းချက်တစ်ရပ်ဖြစ်သော မြေငှားခြင်း စာချုပ်ကို ဆောင်ရွက်ရန် ဖြစ်သည်။ **"အငှားချထားသူ"** နှင့် **"အငှားချထားခြင်းခံရသူ"** နှစ်ဦးလုံးသည် မြေငှားစာချုပ် ချုပ်ဆိုရန် နှစ်ဦး နှစ်ဖက်သဘောတူညီကြပါသည်။

## အပိုဒ်-၂ လုပ်ငန်းဘောင်နှင့် လုပ်ဆောင်မှုဖြစ်စဉ်

၂-၀၁ **"အငှားချထားခြင်းခံရသူ"**က နောက်ပိုင်းတွင် သီးသန့်ထားရမည် (သို့မဟုတ်)ပေးချေရ မည်ဖြစ်သော ငှားရမ်းခနှင့်ပါဝင်မည့် စည်းကမ်းချက်များအတွက် **"အငှားချထားသူ"** က **"အငှား ချထားခြင်းခံရသူ"**အား နောက်ဆက်တွဲ(က)တွင်ပါရှိသည့် ဗိုလ်တထောင်မြို့နယ်တွင် (၂. ၄၄)ဧက အတိုင်းအတာရှိ မြေနှင့် မြေဧရိယာ (၁. ၅၆)ဧကရှိ တာမွေမြို့နယ် ကျိုက္ကဆံမှ မြေနှင့်အားလုံးသော ရပိုင်ခွင့်များ အပါအဝင် ကနဦးနှစ်(၃၀)နှင့် တစ်ကြိမ်လျှင်(၁၀)နှစ်ဖြင့် သက်တမ်း နှစ်ကြိမ် တိုးချဲ့နိုင်ပါသည်။

၂-၀၂ ကနဦးနှစ်(၃၀)ငှားရမ်းမှု စာချုပ်သက်တမ်းကုန်ဆုံးသည့်အခါ အပိုဒ်(၃)ပါ ပြဋ္ဌာန်းချက်များ၊ အရ တစ်ကြိမ်လျှင် (၁၀)နှစ် ဖြင့် သက်တမ်း (၂)ကြိမ် တိုး နိုင်ပါသည်။

## အပိုဒ်-၃ မြေငှားရမ်းခ

၃-၀၁ အပိုဒ်(၂-၀၁)တွင် ဖော်ပြခဲ့သည့် မြေအားလုံးအတွက် နှစ်(၃၀)ငှားရမ်းခမှာ တစ်ဧကအတွက် တစ်လလျှင်ကျပ် သိန်း(၃၀)နှုန်း (ကျပ်သိန်းသုံးဆယ်)ဖြင့် အောက်တွင် ဖော်ပြထားသော တွက်ချက်နည်း အတိုင်းဖြစ်ရမည်-

ရန်ကုန်ရှိမြေများအတွက် ငှားရမ်းခ = ၄ဧက × ကျပ် ၃,၀၀၀,၀၀၀ × ၁၂လ ×၃၀နှစ်
= ကျပ် ၄၃၂၀ သန်း

မြေငှားရမ်းထားသည့် အနှစ်(၃၀)အနက်မှ နောက်ဆုံး (၅)နှစ်တွင်အကျိုးခံစားခွင့်၏ ၃%(Dividend ၃%) ကိုအငှားချထားသူ သို့မြေငှားရမ်းခ အဖြစ်ထပ်မံတိုးမြှင့် ထုတ်ပေးပြီး ကျန်ရှိသော အမြတ်ငွေ အားထည့်ဝင်ထားသော ရှယ်ယာအချိုးအစား အရ ကုမ္ပဏီ၏ ခွဲဝေသင့်သောအမြတ်အနက်မှ **"ကုန်းလမ်းပို့ဆောင်ရေး"** သည် ၄၃% နှင့် **"စန်းရောင်နီကုမ္ပဏီလီမိတက်"**သည် ၅၇% ရရှိမည်ဖြစ်သည်။

၃-၀၂ မြေငှားရမ်းခတွက်ချက်မှုအတွက် မြေငှားကာလစတင်ချိန်သည် မြေငှားစာချုပ်ကို လက်မှတ်ရေးထိုးထားသည့် နေ့ရက်တွင်စတင်ရမည်။ ထို့ကြောင့် ထိုနေ့တွင် **"အငှားချခြင်းခံရသူ"** က မြေငှားရမ်းခကို ရှယ်ယာအဖြစ် လက်ဝယ်ပေးအပ်ရမည်ဖြစ်ပြီး **" အငှားချထားသူ"** မှလည်း ငှားရမ်းသည့်မြေအား လက်ဝယ်ပေးအပ်ရမည်။

၃-၀၃ အပိုဒ်(၃-၁)တွင် ဖော်ပြထားသည့်အတိုင်း နှစ်(၃၀)အတွက်မြေငှားရမ်းခဖြစ်သော မြန်မာကျပ်ငွေ (၄၃၂၀)သန်းကို အငှားချထားခြင်းခံရသူ၏ စာရင်းတွင် **"အငှားချထားသူ"** မှ ထည့်ဝင်ပြီးသည့် အရင်းအနှီးအဖြစ် အရင်းအနှီးအချိုး ၄၃% အဖြစ်သတ်မှတ်ရမည်။

၃-၀၄ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများနှင့်အညီ သက်တမ်းတိုးသည့်ကာလများတွင် မြေငှားရမ်းခကိုတိုးမြှင့်ပေးနိုင်ရန် နှစ်ဦးနှစ်ဖက် ညှိနှိုင်းဆောင်ရွက်ပါမည်။

## အပိုဒ် -၄ မြေငှားရမ်းသည့်အချိန်ကာလ

၄-၀၁ ဤစာချုပ်သက်တမ်းနှင့် မြေငှားခြင်းသည်နှစ်ဦးနှစ်ဖက် စာချုပ်လက်မှတ်ရေးထိုးသည့် နေ့ရက် မှ နှစ်ပေါင်း(၃၀)ဖြစ်ရမည်။ ဤမြေငှားစာချုပ်သက်တမ်းကို အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့၏ သဘောတူညီချက်ဖြင့် နှစ်(၃၀)သက်တမ်းမကုန်ဆုံးမီ (၁)နှစ်အလိုတွင် ကြိုတင်လျှောက်ထားပြီး တစ်ကြိမ်လျှင် (၁၀)နှစ်သက်တမ်းဖြင့်နှစ်ကြိမ် တိုးချဲ့နိုင်သည်။ **"အငှားချထားခြင်းခံရသူ"** သည်စာချုပ်အတိုင်း လိုက်နာရန် မပျက်ကွက်ခဲ့ လျှင် စာချုပ်သက်တမ်း တိုးမြှင့်ခြင်းအတွက် **"အငှားချထားသူ"**က သဘောတူညီမှု ပေးနိုင်သည်။

## အပိုဒ်-၅ စာချုပ်စာတမ်းအကျိုးသက်ရောက်သည့်ရက်

၅-၀၁ စာချုပ်စတင် အကျိုးသက်ရောက်သည့်ရက် သည်ဤစာချုပ်ကို **"အငှားချထားသူ"** နှင့် **"အငှားချထားခြင်းခံရသူ"** နှစ်ဦးလုံး လက်မှတ်ရေးထိုးသည့်နေ့ ဖြစ်ရမည်။

## အပိုဒ်-၆ အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများ

၆-၀၁ **"အငှားချထားခြင်းခံရသူ"** ၏ တာဝန်ဝတ္တရားများမှာ အောက်ပါအတိုင်းဖြစ်သည်-

(၁) ငှားရမ်းထားသည့်မြေကို စီမံကိန်းအတွက်အသုံးပြုရမည်။

(၂) မြေငှား စာချုပ် လက်မှတ်ရေး ထိုး ထားပြီး သည့် ရက်မှ နှစ်(၃၀) အတွင်း စီမံကိန်း ရည်မှန်း ချက်များ ပြီးမြောက်စေရမည်။

(၃) ငှားရမ်းမြေပေါ်တွင် မူလသဘောတူထားသော လုပ်ငန်းများမှအပ ထပ်မံဆောင်ရွက်လိုသော လုပ်ငန်းများအား **"အငှားချထားသူ"** ထံ **"အငှားချထားခြင်းခံရသူ"** မှ ခွင့်ပြုချက် ရယူဆောင်ရွက်ရမည်။ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရ၏ ညွှန်ကြားချက်များ၊ စည်းမျဉ်းစည်းကမ်းများ၊ ဥပဒေများနှင့် အညီဖြစ်စေရမည်။

(၄) ငှားရမ်းထားသောမြေများပေါ်နှင့် ပတ်ဝန်းကျင်တွင် ပတ်ဝန်းကျင်ဆိုင်ရာ ညစ်ညမ်းမှုကို ကာကွယ်ရန်အတွက် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ၏ ညွှန်ကြားချက်များ၊ စည်းမျဉ်းစည်းကမ်းများ၊ ဥပဒေများနှင့်အညီဖြစ်စေရမည်။

(၅) **"အငှားချထားခြင်းခံရသူ"** သည် မြေခွန်များမှအပ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အစိုးရသို့ အားလုံးသောအခွန်များ၊ စည်းကြပ်မှုများကို ပေးဆောင်ရမည်။

(၆) တံဆိပ်ခေါင်း ဥပဒေ ပုဒ်မ (၉)အရ အစိုးရ တံဆိပ်ခေါင်းခွန် ကို အငှားချထားခြင်းခံရသူက ထမ်းဆောင်ရမည်ဖြစ်ပါသည်။

## အပိုဒ် - ၇ "အငှားချထားသူ" ၏ တာဝန်ဝတ္တရားများ

၇-၀၁ **"အငှားချထားသူ"** ၏ တာဝန်ဝတ္တရားများမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(၁) စာချုပ်သက်တမ်းအတွင်း **"အငှားချထားသူ"**သည် **"အငှားချထားခြင်းခံရသူ"**သို့ အငှားချ ထားသည့်မြေပေါ်တွင် **"အငှားချထားခြင်းခံရသူ"**မှ စီမံကိန်းဆောင်ရွက်အသုံးပြုစဉ် ဥပဒေအရ တောင်းဆိုသူ မည်သည့်ပုဂ္ဂိုလ် (သို့မဟုတ်) ပုဂ္ဂိုလ်များ၏ တစ်စုံတစ်ရာ ဟန့်တားနှောက်ယှက်မှုများရှိလာပါက **"အငှားချထားသူ"**မှ တာဝန်ယူဖြေရှင်း ဆောင်ရွက်ပေးရမည်။




(၂) **"အငှားချထားသူ"** သည် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်၏ သက်ဆိုင်ရာ အာဏာပိုင်များမှ တောင်းခံသော မြေပိုင်ဆိုင်မှုနှင့် ပတ်သက်သော မြေခွန်များကို ပေးဆောင်ရမည်။

(၃) နှစ်ဦးနှစ်ဖက် အကျိုးကျေးဇူးအတွက် စီမံကိန်းကို အကောင်အထည်ဖော်ရာတွင် **"အငှားချထားသူ"** ပိုင်ဆိုင်သည့်မြေများကို **"အငှားချထားခြင်းခံရသူ"**က အသုံးပြု ပိုင်ခွင့်ရှိရမည်။ ငှားရမ်းထားသောမြေများကို **"အငှားချထားခြင်းခံရသူ"**က အသုံးပြု ပိုင်ခွင့်နှင့် စပ်လျဉ်းသည့် အောက်ပါစည်းကမ်းချက်များကို သဘောတူညီ ပါသည်-

(က) **"အငှားချထားခြင်းခံရသူ"**အား ငှားရမ်းထားသော မြေများကို စီမံကိန်းစတင် သည်နှင့် ချက်ချင်း အသုံးပြုခွင့်ပေးရမည်။

(ခ) လုပ်ငန်းဆောင်ရွက်မှု လိုအပ်ချက်များနှင့်အညီ အဆောက်အဦဟောင်းများ ဖယ်ရှားရန်၊ အသစ်ဆောက်လုပ်ရန်၊ လျှပ်စစ်နှင့် ရေပေးဝေမှုများကို ငှားရမ်း ထားသော မြေများပေါ်တွင် ဆောင်ရွက်ရန် အငှားချထားခြင်းခံရသူအား ခွင့်ပြု ရမည်။

(ဂ) ငှားရမ်းထားသည့်မြေများပေါ်တွင် လုပ်ငန်းဆောင်ရွက်နေသူ ပုဂ္ဂိုလ်များနှင့် ပြုလုပ်ထားသည့် အားလုံးသော သဘောတူညီချက်များ၊ စာချုပ်များရှိခဲ့လျှင် ရပ်ဆိုင်းပြီး ဖြစ်စေရမည်။

(ဃ) ငှားရမ်းထားသည့် မြေများပေါ်တွင် နေထိုင်လျက်ရှိသည့် ယခင်ကကုမ္ပဏီများ၊ အသင်းအဖွဲ့များ၊ ပုဂ္ဂလိကများ၊ စီးပွားရေးလုပ်ငန်းရှင်များ ရှိခဲ့ပါက ဖက်စပ် သဘောတူစာချုပ် လက်မှတ်ရေးထိုးပြီးသည့် (၃)လအတွင်း ရွှေ့ပြောင်းပြီး/ ဖယ်ထုတ်ပြီး ဖြစ်စေရမည်။

(၄) **"အငှားချထားသူ"**သည် **"အငှားချထားခြင်းခံရသူ"**၏ လုပ်ငန်းများအတွက် အခြေခံ အဆောက်အအုံ အစီအမံများဖြစ်သော လမ်း၊ ရေပေးဝေစနစ်၊ ရေနုတ် မြောင်းစနစ် လျှပ်စစ်စသည် များရရှိနိုင်ရေးအတွက် ကူညီဆောင်ရွက်ပေးရပါမည်။

(၅) **"အငှားချထားသူ"**သည်**"အငှားချထားခြင်းခံရသူ"**ကလိုအပ်သည့် အပြည်ပြည် ဆိုင်ရာ တယ်လီဖုန်းလိုင်း၊ ဖက်စ်လိုင်း၊ တဲလက်(ခ)လိုင်းများရရှိရေးအတွက် ကူညီ ရမည်။

(၆) **"အငှားချထားသူ"** သည် **"အငှားချထားခြင်းခံရသူ"** က ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံ သက်ဆိုင်ရာအာဏာပိုင်များထံမှ ခွင့်ပြုမိန့်များ၊ လိုင်စင်များရရှိရေး ကိုကူညီရမည်။

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
057702 SPECIAL ADHESIVE
၁၀၀၀၀၀ကျပ် K 100000

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
057703 SPECIAL ADHESIVE
၁၀၀၀၀၀ကျပ် K 100000

(ဂ) **"အငှားချထားသူ"** သည် စာချုပ်သက်တမ်းကာလအတွင်း၌ သင့်လျော်သော အချိန်တိုင်း တွင် ငှားရမ်းထားသော မြေများအပေါ်တွင် ၎င်း၏အခွင့်အာဏာရ ကိုယ်စားလှယ်များအား စစ်ဆေးရေးကိစ္စများကို လွတ်လပ်စွာဆောင်ရွက်ရန် အခွင့်အာဏာ ပေးပိုင်ခွင့်ရှိသည်။

## အပိုဒ်-၈ ကိုယ်စားပြုခြင်းနှင့် အာမခံခြင်း

၈-၀၁ စာချုပ်ဝင်တို့သည် မြေငှားစာချုပ်ချုပ်ဆိုရန်အတွက် တည်ဆဲ ဥပဒေများအရ လုပ်ပိုင်ခွင့် အခွင့်အာဏာနှင့် စာချုပ်ကိုအကောင်အထည်ဖော်ရန် ငွေကြေးအင်အားပြည့်စုံသူ၊ လုပ်ပိုင်ခွင့်ရှိသူဖြစ်ကြောင်း အသီးသီးကိုယ်စားပြုအာမခံပါသည်။

## အပိုဒ်-၉ ကြိုတင်စည်းကမ်းသတ်မှတ်ချက်

၉-၀၁ ဤစာချုပ်မှာ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရ၏ သက်ဆိုင်ရာအာဏာပိုင်အားလုံးထံမှ စာချုပ်အရ ဆောင်ရွက်မှုနှင့် အကောင်အထည်ဖော်မှုကို သဘောတူကြောင်း လိုအပ်ချက်အားလုံးရရှိမှုအပေါ် မူတည်၍ အတည်ဖြစ်သည်။

## အပိုဒ်-၁၀ စာချုပ်ကိုပြန်လည်ညှိနှိုင်းခြင်း

၁၀-၀၁ ဤစာချုပ်တွင် ဖော်ပြမထားသည့် အခြေအနေများကြောင့် စည်းကမ်းချက် (သို့မဟုတ်) အခြေ အနေ တစ်ရပ်ပေါ်ပေါက်သည့်အခါတွင် ဤစာချုပ်ကို ပြင်ဆင်နိုင်ပါသည်။ နှစ်ဦးနှစ်ဖက်သည် ယင်းပြင်ဆင်ချက်များပြုလုပ်ရန်အတွက် လိုအပ်သောညှိနှိုင်းမှုများ ပြုလုပ်ရပါမည်။

## အပိုဒ်-၁၁ အငြင်းပွားမှုဖြေရှင်းခြင်း

၁၁-၀၁ ဤစာချုပ်ပါ အချက်အလက်များနှင့်ပတ်သက်၍ အကောင်အထည်ဖော်ဆောင်ရွက် ရာတွင် ဖြစ်စေ၊ အဓိပ္ပါယ်လွဲမှားမှု ကြောင့်ဖြစ်စေအငြင်းပွားမှု တစ်စုံတစ်ရာ ပေါ်ပေါက်လာ ပါက သဘောတူစာချုပ်တွင် လက်မှတ်ရေးထိုးထားသည့် စာချုပ်ဝင် နှစ်ဦးနှစ်ဖက် စလုံးမှ ညှိနှိုင်း ဆွေးနွေးခြင်းဖြင့် အငြင်းပွားမှုကို ပြေလည်ငြိမ်းအေးစေနိုင်သည်။ နှစ်ဦးနှစ်ဖက် အကျေအလည် ညှိနှိုင်းဆွေးနွေး၍ မရရှိပါက သက်ဆိုင်ရာ စီရင်ပိုင်ခွင့် အာဏာရှိသော တရားရုံး၏ အဆုံးအဖြတ်ကို ခံယူရမည်။

## အပိုဒ်-၁၂ စာချုပ်ရပ်စဲခြင်း

၁၂-၀၁ ဤမြေငှားစာချုပ်ကို အောက်ပါအချက်အလက် တစ်စုံတစ်ရာဖြစ်ပေါ်လျှင် တစ်ဖက်ဖက်မှ စာဖြင့် ရက်ပေါင်း (၃၀)ကြိုတင် အကြောင်း ကြားပြီးရပ်စဲနိုင်သည်-

(၁) **"အငှားချထားခြင်းခံရသူ"**၏ လုပ်ငန်းဆောင်ရွက်မှုများတွင် စဉ်ဆက်မပြတ်ဆုံးရှုံးမှုများ ဖြစ်ပေါ်လျှင်

(၂) စာချုပ်ဝင် တစ်ဦးဦးက စာချုပ်ပါစည်းကမ်းချက်ကို ဖောက်ဖျက်ကျူးလွန်ခြင်းကြောင့် တစ်ဖက်မှ ရက်ပေါင်း(၃၀)အတွင်း ပြုပြင်ရန်စာဖြင့် ရေးသားအကြောင်းကြားချက်ကို လိုက်နာခြင်းမပြုလျှင်

(၃) မလွန်ဆန်နိုင်သော ဖြစ်ရပ်များ ဖြစ်ပွားမှုသည်ဆက်တိုက် (၃)လကျော်လွန်နေလျှင်

၁၂-၀၂ အထက်ဖော်ပြပါ(၁၂. ၀၁)ပါအချက်များကြောင့် တစ်ဖက်ဖက်မှ စာချုပ်ရပ်စဲရန် ရက်ပေါင်း (၃၀)ကြိုတင်အသိပေးပြီးနောက် စာချုပ်ဝင်နှစ်ဖက်စလုံးက စာဖြင့်ရေးသား သဘောတူညီချက် အရ စာချုပ်သက်တမ်းမကုန်ဆုံးမီ မြေငှားစာချုပ်ကို ရပ်စဲနိုင်သည်။

၁၂-၀၃ ဤစာချုပ်ကို **"အငှားချထားခြင်းခံရသူ"**က မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ဆုံးရှုံးမှု၊ ပျက်စီးမှုတစ်စုံတရာရှိခြင်းကြောင့် စာချုပ်ရပ်စဲလိုကြောင်း **"အငှားချထားသူ"**ထံ စာဖြင့် ရေးသား၍ ရက်ပေါင်း(၉၀)ကြိုတင်အကြောင်းကြားပြီးနောက် **"အငှားချထားခြင်းခံရသူ"**က စာချုပ်ရပ်စဲနိုင်သည်။ **"အငှားချထားခြင်းခံရသူ"**သည် ပျက်စီးသည့်ပစ္စည်းများကို မိမိစရိတ်ဖြင့် ပြန်လည်တည်ဆောက်ပြီး လုပ်ငန်းများ ဆက်လက်လုပ်ကိုင်လိုက အငှားချထားသူ၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်လုပ်ကိုင်နိုင်သည်။

၁၂-၀၄ စာချုပ်ရပ်စဲခြင်းကို ဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူပြီးမှသာ အကျိုး သက်ရောက်စေရမည်။

## အပိုဒ်-၁၃ မလွန်ဆန်နိုင်သောဖြစ်ရပ်

၁၃-၀၁ မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ သဘာဝအလျောက် ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည့်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန် မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ယင်းမလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့်ငှား ရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် အငှား




ချထားခြင်းခံရသူသည် အငှားချထားသူသို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေး တောင်းခွင့်မရှိစေရ။

၁၃-၀၂ ထိုသို့မလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်လာပါက၊ ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့်အချိန်မှ (၁၄) ရက်အတွင်း အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ချက်ချင်း စာဖြင့်ရေးသား အကြောင်းကြားရမည်၊ အငှားချထားသူက လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ် မြောက်ပြီး၊ မြေအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလ အပိုင်းအခြားအတွက် မြေငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

## အပိုဒ်-၁၄ လွှဲပြောင်းခြင်း

၁၄-၀၁ **"အငှားချထားခြင်းခံရသူ"** သည် **"အငှားချထားသူ"**၏ စာနှင့်ရေးသားထားသော ကြိုတင်သဘောတူညီချက်ဖြင့် မိမိ၏အခွင့်အရေးများကို ပြည်တွင်းပြည်ပမှ ကုမ္ပဏီတစ်ခုခု၊ ပုဂ္ဂိုလ်တစ်ဦးဦးသို့ လွှဲပြောင်းအပ်နှင်းနိုင်သည်။ ထိုသို့ ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေ များနှင့်အညီ ဖြစ်ရမည့်အပြင် ဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက် ရယူရမည်။

## အပိုဒ်-၁၅ သယံဇာတပစ္စည်းတွေ့ရှိခြင်း

၁၅-၀၁ ဤစာချုပ်သက်တမ်းအတွင်း လုပ်ငန်းဆောင်ရွက်သည့်မြေ၏ မြေပေါ်မြေအောက်မှ မမျှော်လင့်ဘဲ ဓာတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓာတုဆိုင်ရာပစ္စည်းများ၊ သဘာဝသယံဇာတ ပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများ၊ ကျောက်မျက်ရတနာများ အစရှိသည်တို့တွေ့ရှိလျှင် ထိုပစ္စည်းများကို "အငှားချထားသူ"က ပိုင်ဆိုင်ရမည့်အပြင် "အငှားချထားသူ" သည် ထိုပစ္စည်းများကို နိုင်ငံတော် အစိုးရအဖွဲ့အစည်းသို့ လွှဲပြောင်းတင်ပြရမည်။ "အငှားချထားသူ"သည် အဆိုပါ သယံဇာတ ပစ္စည်းများကို မည်သည့်အချိန်တွင်မဆို လွတ်လပ်စွာ တူးဖော်ခွင့်ရှိစေရမည်။

## အပိုဒ်-၁၆ ပတ်ဝန်းကျင်ထိန်းသိမ်းရေး

၁၆-၀၁ အငှားချထားခြင်းခံရသူ အနေဖြင့်လုပ်ငန်း ဆောင်ရွက်မည့် နေရာဒေသ၏ ပတ်ဝန်းကျင်အား ကောင်းစွာကာကွယ်ထိန်းသိမ်း စောင့်ရှောက်ထားရန် တာဝန်ရှိသည်။ ဆောက်လုပ်ထားသော အဆောက်အဦများနှင့် ၎င်းတို့၏ပတ်ဝန်းကျင် တစ်ဝိုက်တွင် ဘေးအန္တရာယ်ကျရောက်မှု နှင့် ညစ်ညမ်းမှု တို့မှကာကွယ်ရန်အတွက် လိုအပ်သော ကြိုတင်ပြင်ဆင်မှု

များကို ပြုလုပ်ရမည်။ ထို့ပြင်လေထု၊ ရေထုနှင့်မြေထုများ ညစ်ညမ်းခြင်းနှင့် အခြားသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက် ပျက်စီး ဆုံးရှုံးခြင်းအား ကာကွယ်ထိန်းချုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်ရမည်။ ရေများ သန့်စင်နိုင်သော စက်များတပ်ဆင်ပေးခြင်း၊ လေထုညစ်ညမ်းမှုများ မဖြစ်စေရန် အခိုးအငွေ့နှင့် အညစ်အကြေးစွန့်အစိတ်အပိုင်းများကို လုံခြုံစွာထားရှိပေးခြင်းဖြင့် အခြားသော ဘေးအန္တရာယ် ကင်းရှင်းရေးဆိုင်ရာ လိုအပ်သောအကာအကွယ် အစီအစဉ်များ ဆောင်ရွက်ရမည်။ ထို့ပြင် လုပ်ငန်းဆောင်ရွက်မှုကြောင့် ပေါ်ပေါက်လာမည့် မည်သည့် လော်ကြေး [illegible] “အငှားချထားသူ” အပေါ်တွင် တာဝန် မရှိစေရ။




## အပိုဒ်-၁၇ ဖက်စပ်လုပ်ငန်းစာချုပ်၏အရေးပါသောအစိတ်အပိုင်း

၁၇-၀၁ ဤမြေငှား စာချုပ်နှင့် နောက်ဆက်တွဲများသည် ဖက်စပ်စာချုပ်၏ အရေးပါသော အစိတ်အပိုင်း ဖြစ်သည်။

## အပိုဒ်-၁၈ အကြောင်းကြားခြင်း

၁၈-၀၁ ပေးပို့ရန်နှင့် ပေးအပ်ရန်လိုအပ်သော အကြောင်းကြားချက် (သို့မဟုတ်) အခြား ဆက်သွယ်မှုများသည် မြန်မာဘာသာဖြင့်ရေးသား၍ ငွေပေးပြီး မှတ်ပုံတင်စာဖြင့် (သို့မဟုတ်) ဖက်စ်ဖြင့် လည်းကောင်း (သို့မဟုတ်) အပြည်ပြည်ဆိုင်ရာ ပို့ဆောင်မှုဖြင့် အောက်ဖော်ပြပါ လိပ်စာနှင့် အခြား လိပ်စာများဖြင့် သက်ဆိုင်သည့် ဘက်သို့ပေးပို့ရမည်။

**“အငှားချထားသူ”**လိပ်စာ




ဦးဆောင်ညွှန်ကြားရေးမှူး
ကုန်းလမ်းပို့ဆောင်ရေး
ရုံးအမှတ်(၂၉)
နေပြည်တော်။

**“အငှားချထားခြင်းခံရသူ”**လိပ်စာ

မန်နေဂျင်းဒါရိုက်တာ
အမှတ်-၁၉၆၊ ၇၉ လမ်း၊ ၃၂လမ်းနှင့်၃၃လမ်းကြား၊
ချမ်းအေးသာဇံမြို့နယ်၊မန္တလေးတိုင်းဒေသကြီး။

## အပိုဒ်-၁၉ ငှားရမ်းသည့်မြေပေါ်မှ

၁၉-၀၁ အငှားစာချုပ်သက်တမ်း (တိုးချဲ့သက်တမ်းအပါအဝင်)အတွင်း **အငှားချထားခြင်းခံရသူ** သည် ငှားရမ်းမြေပေါ်တွင် အဆောက်အဦများ ထပ်မံဆောက်လုပ်ခြင်း၊ တိုးချဲ့ခြင်းများကို ရင်းနှီး မြှုပ်နှံမှု စတင်သည်နှင့် ဆောင်ရွက်နိုင်သည်။

၁၉-၀၂ **"အငှားချထားခြင်းခံရသူ"** သည် စာချုပ်ရပ်စဲခြင်း (သို့မဟုတ်) စာချုပ်သက်တမ်း ကုန်ဆုံးချိန်မှ (၃)လအတွင်း ရွှေ့ပြောင်းနိုင်သော ပစ္စည်းအားလုံးကို မိမိစရိတ်ဖြင့် ဖယ်ရှား နိုင်သည်။ ထုခွဲ ရောင်းချနိုင်သည် ပြန်လည်ရယူပိုင်ဆိုင်နိုင်သည်။ ယင်းသို့ ဆောင်ရွက် သည့်အခါ မိမိကြောင့် အငှားချထားသူမြေပေါ်တွင် ပျက်စီးမှုများအတွက် လျော်ကြေး ပေးရမည့်အပြင် ပြောင်းရွှေ့သည့်နေ့အထိ အငှားချထားသူ၏ မြေငှားခ ရပိုင်ခွင့်ကို မထိခိုက်စေရပါ။

## အပိုဒ်-၂၀ ငှားရမ်းထားသော ပစ္စည်း များပြန်လည်လွှဲအပ်ခြင်း

၂၀-၀၁ **"အငှားချထားခြင်းခံရသူ"** သည် ဤစာချုပ်ပါ ငှားရမ်းခြင်းကာလ ကုန်ဆုံးသည့် အခါ ဖြစ်စေ၊ ငှားရမ်းခြင်း ရပ်စဲသည့်အခါဖြစ်စေ ယင်းသို့ကုန်ဆုံးသည့်နေ့ (သို့မဟုတ်) ရပ်စဲသည့်နေ့မှ ရက်ပေါင်း(၉၀)အတွင်း ငှားရမ်းထားသည့် ပစ္စည်းကို **"အငှားချထားသူ"** သို့ အဖိုးစားနား တစ်စုံတစ်ရာမပါဘဲ ကောင်းမွန်သော အနေအထားဖြင့် လွှဲပြောင်း ပေးရမည်။

## အပိုဒ်-၂၁ မြေသို့ပြန်လည်ဝင်ရောက်ပိုင်ခွင့်

၂၁-၀၁ အငှားချထားခြင်းခံရသူသည် စာချုပ်ပါစည်းကမ်းချက် တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် သို့မဟုတ် လိုက်နာရန် ပျက်ကွက်ခြင်းကြောင့် အငှားချထားသူက ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် သို့မဟုတ် လိုက်နာရန် အငှားချထားခြင်းခံရသူသို့ အကြောင်းကြားစာ ပေးပို့ပြီး နောက် အကျိုးအကြောင်းဆီလျော်သည့် ကာလအတွင်း လိုက်နာမှုမရှိပါက အငှားချထား သူသည် အငှားချထားသည့်မြေနှင့် အဆောက်အဦးသို့ ပြန်လည်ဝင်ရောက်၍ လက်ရောက် ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် အငှားချထား သူက အငှားချထားခြင်းခံရသူထံမှ ရရန်ရှိသော ငှားရမ်းခ သို့မဟုတ် ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခြင်းကို ထိခိုက်ခြင်း မရှိစေရ။

## အပိုဒ်-၂၂ စာချုပ်အားပြင်ဆင်ဖြည့်စွက်ခြင်း

၂၂-၀၁ ဤစာချုပ်ကို ပြင်ဆင်ရန်လိုအပ်ပါက စာချုပ်ဝင် နှစ်ဦးနှစ်ဖက်စာဖြင့် ရေးသားလက်မှတ်ထိုး၍ ဝန်ကြီးဌာန ၏ အတည်ပြုချက်ဖြင့် ပြင်ဆင်နိုင်သည်။

## အပိုဒ်-၂၃ စာချုပ်ချုပ်ဆိုခြင်း

၂၃-၀၁ ဤစာချုပ်ကို မြန်မာဘာသာဖြင့် ရေးသားရမည်။ ယင်းဘာသာစကားသည် အခြားဘာသာဖြင့် ဘာသာပြန်ရေးသားမှုများကို လွှမ်းမိုးစေရမည်။ စာချုပ်ဝင် နှစ်ဦးနှစ်ဖက်သည် သက်သေများ ရှေ့တွင် သူတို့၏လက်မှတ်၊ တံဆိပ်များကို အထက်တွင်ရေးသားသည့် နှစ်၊ လ၊ ရက်တွင် ရေးထိုးခပ်နှိပ်ကြပါသည်။

| အငှားချထားသူ(ကိုယ်စား) | အငှားချထားခြင်းခံရသူ(ကိုယ်စား) |
| --- | --- |
| ဦးစန်းမြင့်ဦး | ဦးအောင်ကျော်မြင့် |
| ဦးဆောင်ညွှန်ကြားရေးမှူး | မန်နေဂျင်းဒါရိုက်တာ |

### အသိသက်သေ

(၁) .................... (၁)....................

(၂) .................... (၂)....................

၁၂။ BOD အဖွဲ့ဝင်များ၏ နိုင်ငံသားစိစစ်ရေးကတ် များ

(၁) ဦးအောင်ကျော်မြင့်

(၂) ဒေါ်လှဆန်းပွင့်

(၃) ဒေါ်ရည်မွန်သက်

(၄) ဦးထွန်းလင်းစိုး

(၅) ဦးကျော်သီဟ

၁၃။ စန်းရောင်နီကုန်းလမ်းပို့ဆောင်ရေးကုမ္ပဏီလီမိတက်

တည်ထောင်ခွဲစည်းကခွင့်ပြုမိန့်နှင့်သဘောထားမှတ်ချက်များ

(က) နိုင်ငံတော်သမ္မတရုံး

(ခ) ပြည်ထောင်စုအစိုးရအဖွဲ့

(ဂ) ပြည်ထောင်စုရှေ့နေချုပ်ရုံး

(ဃ) စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

(င) အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

(စ) ဘဏ္ဍာရေးဝန်ကြီးဌာန

(ဆ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့

(ဇ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

(ဈ) ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

(ည) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

၁။ **နိုင်ငံတော်သမ္မတရုံး၏** (၂.၆.၂၀၁၄) ရက်စွဲပါစာအမှတ်၊ ၅၅(၂) / ၇ /သ ဖြင့် ဖက်စပ်ကုမ္ပဏီတည်ထောင်ရန် လုပ်ငန်းများဆောင်ရွက်ခွင့်ကိစ္စ။

၂။ **ပြည်ထောင်စုအစိုးရအဖွဲ့၏** (၃၁.၇.၂၀၁၄) ရက်စွဲပါစာအမှတ် ၅၁ / ၂၅၇ / အဖရ (၁၄ / ၂၀၁၄) ဖြင့် ဖက်စပ်ကုမ္ပဏီတည်ထောင်ရန်လုပ်ငန်းများကိုဆောင်ရွက်ခွင့်ပြုခြင်း။

၃။ **ပြည်ထောင်စုရှေ့နေချုပ်ရုံး၏** (၈.၁.၂၀၁၄)ရက်စွဲပါစာအမှတ် ၂ (၅) ၁-၁ /၄ ပတ(၁၉) ဖြင့် စာချုပ်(မူကြမ်း)တောင်းခံခြင်းကိစ္စ။

၄။ **စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၏**(၄.၄.၂၀၁၄) ရက်စွဲပါစာအမှတ် ၊စက-၁၄/ ၁(၃)-၃၀ / ၂၀၁၄(၈) ဖြင့် သဘောထားမှတ်ချက်ပြန်ကြားခြင်း။

၅။ **အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန၏** (၁၀.၄.၂၁၀၁၄)ရက်စွဲပါစာအမှတ် အမစ-၁/၃/၉ (၁၈၀၇ / ၂၀၁၄) ဖြင့် သဘောထားမှတ်ချက်ပေးရန်ကိစ္စ။

၆။ **ဘဏ္ဍာရေးဝန်ကြီးဌာန၏** (၁၉.၅.၂၀၁၄) ရက်စွဲပါစာအမှတ် ၊ ဘခ-၁ / ၂၇၄ (၂၄၇၅ /၂၀၁၄) ဖြင့်သဘောထားမှတ်ချက်ပြန်ကြားခြင်း။

၇။ **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏** (၈.၄.၂၀၁၄) ရက်စွဲပါစာအမှတ် ၂ / ၃ -၆(၅) / စီးပွား ဖြင့်သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။

၈။ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏** (၇.၄.၂၀၁၄) ရက်စွဲပါစာအမှတ် (၂/၂၂၀ (ခ)(၆) / (၂၆၆၇ / ၂၀၁၄) ဖြင့်သဘောထားမှတ်ချက်ပြန်ကြားခြင်း။

၉။ **ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏** (၂၄. ၄. ၂၀၁၄) ရက်စွဲပါစာအမှတ် ၁၀၃ / ၀၄ (၁၄၇၁) / စသက ဖြင့်သဘောထားမှတ်ချက်ပေးပို့ခြင်း။

၁၀။ **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏** (၈.၅.၂၀၁၄) ရက်စွဲပါစာအမှတ်၊ မအသ / စီမံ / ၀၉၉၅ / ၂၀၁၄ ဖြင့် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

နိုင်ငံတော်သမ္မတရုံး

စာအမှတ်၊ ၅၅( ၂ ) / ၇ / သ

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဇွန်လ ၂

သို့

ရထားပို့ဆောင်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ **ဖက်စပ်ကုမ္ပဏီတည်ထောင်၍ လုပ်ငန်းများဆောင်ရွက်ခွင့်ကိစ္စ**

ရည် ညွှန်း ချက် ။ ယင်း၏ ၁၇ - ၆ - ၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၁ / ၇၁ - ကပရ / ၂၀၁၄ ( ၁၉၈၄

ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ ကုန်းလမ်းပို့ဆောင်ရေးနှင့် စန်းရောင်နီကုမ္ပဏီတို့ အ
ပူးပေါင်း၍ စန်းရောင်နီကုန်းလမ်း ပို့ဆောင်ရေးကုမ္ပဏီလီမိတက်အဖြစ် ဖက်စပ်ကုမ္ပဏီတည်
လုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းစာဖြင့် တင်ပြလာခြင်းအား လုပ်ထုံးလုပ်နည်း
ဆက်လက်ဆောင်ရွက်သွားရန် အကြောင်းကြားအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

သမ္မတဦးစီးရုံး

ဒုတိယသမ္မတဦးစီးရုံးများ

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

သမ္မတရုံးဝန်ကြီးဌာန(၃)

သမ္မတရုံးဝန်ကြီးဌာန(၅)

အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

နောက်ဆက်တွဲ "ဂ"

လျှို့ဝှက်

၇

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်ထောင်စုအစိုးရအဖွဲ့

စာအမှတ်၊ ၅၀ /၂၅၇/ အဖရ (၁၄/ ၂၀၁၄)။
ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ ၃၁ ရက်။

အ မှာ စာ

အကြောင်းအရာ။ ကုန်းလမ်းပို့ဆောင်ရေးနှင့် စန်းရောင်နီကုမ္ပဏီလီမိတက်တို့အကျိုးတူပူးပေါင်း၍ "စန်းရောင်နီကုန်းလမ်းပို့ဆောင်ရေးကုမ္ပဏီလီမိတက်" အမည်ဖြင့် ဖက်စပ်ကုမ္ပဏီတည်ထောင်၍ လုပ်ငန်းများဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်း။

၁။ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ ၁၇ ရက် (ကြာသပတေး)နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၄/၂၀၁၄) မှတ်တမ်းကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်းပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

ဇော်သန်းသင်း
အတွင်းရေးမှူး

ပြည်ထောင်စုဝန်ကြီး
ရထားပို့ဆောင်ရေးဝန်ကြီးဌာန

၅၁။ ကုန်းလမ်းပို့ဆောင်ရေးနှင့် စန်းရောင်နီကုမ္ပဏီလီမိတက်တို့အကျိုးတူပူးပေါင်း၍ "စန်းရောင်နီကုန်းလမ်းပို့ဆောင်ရေးကုမ္ပဏီလီမိတက်" အမည်ဖြင့် ဖက်စပ်ကုမ္ပဏီတည်ထောင်၍ လုပ်ငန်းများဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်း။

ရထားပို့ဆောင်ရေးဝန်ကြီးဌာန၏ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ ၄ ရက် နေ့စွဲပါ အမှာစာ အမှတ်၊ ၁ / ၇၁-ကပရ / ၂၀၁၄ (၂၂၄၃) ။ ကုန်းလမ်းပို့ဆောင်ရေးနှင့် စန်းရောင်နီကုမ္ပဏီလီမိတက်တို့ အကျိုးတူပူးပေါင်း၍ "စန်းရောင်နီကုန်းလမ်းပို့ဆောင်ရေးကုမ္ပဏီလီမိတက်" အမည်ဖြင့် ဖက်စပ်ကုမ္ပဏီတည်ထောင်၍ မော်တော်ယာဉ်ပြေးဆွဲရေးနှင့် ဆက်နွယ်သော အကျိုးတူလုပ်ငန်းများ ပူးပေါင်းဆောင်ရွက်ရန် သဘောတူကြသည်။ ဆောင်ရွက်ရန်၊ ရထားပို့ဆောင်ရေး။

လျှို့ဝှက်

၂၇၉
၈/၁/၂၀၁၄

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်

စာအမှတ်၊ ၂(၅) ၁ - ၁ / နပတ( ၁၉ )

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဇန်နဝါရီလ ၈ ရက်

အကြောင်းအရာ။ **ကုန်လမ်းပို့ဆောင်ရေးနှင့် စန်းရောင်နီကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် ဖက်စပ်စာချုပ်(မူကြမ်း)နှင့် ဖက်စပ်ကုမ္ပဏီက ငှားရမ်းမည့် မြေငှားစာချုပ် (မူကြမ်း) အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်း**

ရည်ညွှန်းချက်။ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၂၂-၁၁-၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ၁/ ၁၁၇/၂၀၈၃(၄၀၂)

၁။ ကုန်လမ်းပို့ဆောင်ရေးနှင့် စန်းရောင်နီကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် ဖက်စပ်စာချုပ် (မူကြမ်း)၊ ဖက်စပ်ကုမ္ပဏီနှင့် ကုန်လမ်းပို့ဆောင်ရေးတို့ ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)နှင့် သင်းဖွဲ့စည်းမျဉ်း(မူကြမ်း)နှင့် သင်းဖွဲ့မှတ်တမ်း(မူကြမ်း)တို့အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာဖြင့် ပူးတွဲပေးပို့လာသော ကုန်လမ်းပို့ဆောင်ရေးနှင့် စန်းရောင်နီ ကုန်လမ်းပို့ဆောင်ရေးကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်း အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း)ပါ စာချုပ်ဝင်များစာပိုဒ်အား ပုံစံကျနမှုရှိစေရန် မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) အပိုဒ် ၃.၀၁ မြေငှားရမ်းခကို တစ်ကေတစ်လလျှင်ဖြင့် နှစ် ၃၀ အတွက် တွက်ချက်ဖော်ပြထားပါသည်။ ငှားရမ်းသည့်နှစ် ၃၀ အတွက်

ပုံသေမြေငှားရမ်းခဖြစ်နေသဖြင့် ငှားရမ်းခကို မည်မျှနှစ်တွင် တစ်ကြိမ် ငှားရမ်းခတိုးခြင်း လျော့ခြင်းအား မည်သည့်ရာခိုင်နှုန်းထက်ပိုခြင်း၊ လျော့ခြင်း မရှိစေရန် သတ်မှတ်ရန်သင့် မသင့် ဌာနလိုအပ်ချက်နှင့်အညီ ပြန်လည်စိစစ် သင့်ပါသည်။ ထို့အတူ စာချုပ်(မူကြမ်း) အပိုဒ် ၃.၀၄ တွင် သက်တမ်းတိုး ကာလတွင် မြေငှားရမ်းခကိုတိုးမြှင့်ရန် နှစ်ဖက်သဘောတူညှိနှိုင်းဆောင်ရွက်ရန် ဖော်ပြထားရာ၊ သက်တမ်းတိုးကာလတွင် ငှားရမ်းခ၏မည်သည့်ရာခိုင်နှုန်း အထိ တိုးမြှင့်မည်ဖြစ်ကြောင်းသတ်မှတ်ရန်သင့် မသင့် ဌာနလိုအပ်ချက်နှင့် အညီ ပြန်လည်စိစစ်သင့်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် ၄ မြေငှားရမ်းသည့်အချိန်ကာလ၊ အပိုဒ်ခွဲ ၄.၀၁ တွင် ဤမြေငှားစာချုပ်နှင့် ငှားရမ်းခြင်းကို (၁၀)နှစ်သက်တမ်း(၂)ကြိမ်တိုးချဲ့နိုင် ကြောင်း ဖော်ပြထားပါသည်။ သက်တမ်းတိုးရန် ကြိုတင်လျှောက်ထားရမည့် ကာလသတ်မှတ်ဖော်ပြရန်လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၆ အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများ အပိုဒ် ၆.၀၁(၃)တွင် ငှားရမ်းမြေပေါ်တွင် ဆောင်ရွက်မှုများအား အသိပေးမည် ဟု ဖော်ပြထားရာ၊ အငှားချထားသူ၏ ခွင့်ပြုချက်ရယူရန် သင့် မသင့် ဌာန လိုအပ်ချက်နှင့်အညီ ပြန်လည်သုံးသပ်သင့်ပါသည်၊

(င) စာချုပ်(မူကြမ်း)အပိုဒ် ၇ အငှားချထားသူ၏တာဝန်ဝတ္တရားများ၊ အပိုဒ်ခွဲ ၇.၀၁ ပါ တာဝန်များအား ဌာနမှ ဆောင်ရွက်နိုင်ခြင်းရှိ မရှိ စိစစ်ရန်ဖြစ် ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် ၇.၀၁(၃)(ဃ)တွင် ငှားရမ်းသည့်မြေပေါ်တွင် နေထိုင်လျက်ရှိသည့် ယခင်ကကုမ္ပဏီများ၊ အသင်းအဖွဲ့များ၊ ပုဂ္ဂလိကများ၊ စီးပွားရေးလုပ်ငန်းရှင်များရှိခဲ့ပါက ဖက်စပ်စာချုပ်လက်မှတ်ရေးထိုးပြီး (၃) လအတွင်း ရွှေ့ပြောင်းပြီး/ ဖယ်ထုတ်ပြီးဖြစ်စေရမည်ဟူသော စည်းကမ်းချက်အားသတိပြုသင့်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၈.၀၁ အား အငှားချထားသူ၏ တာဝန်ဝတ္တရားအောက်သို့ပြောင်းရွှေ့သင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) အပိုဒ် ၈.၀၂ တွင် ဖော်ပြထားချက်သည် အပိုဒ် ၂၁ မြေသို့ပြန်လည်ဝင်ရောက်ပိုင်ခွင့်နှင့်တူညီနေသောကြောင့် အပိုဒ် ၈.၀၂ အားပယ်ဖျက်ပေးလိုက်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) တွင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်းသည့် စည်းကမ်းချက်မပါရှိ၍ ရေးသားပေးလိုက်ပါသည်၊

(ည) စာချုပ်(မူကြမ်း) တွင် မြေငှားစာချုပ်များ၌ ရယူလေ့ရှိသော မြေအသုံးချမှုပရီမီယံ (Land Use Premium) ကို ဌာနအနေဖြင့် ရယူရန်သင့် မသင့်စဉ်းစားသင့်ပါသည်၊

(ဋ) လိုအပ်သောနေရာများတွင် မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်၊

၃။ ရည်ညွှန်းချက်ပါစာနှင့်အတူ ပူးတွဲပေးပို့လာသော ကုန်လမ်းပို့ဆောင်ရေးနှင့် စန်းရောင်နီကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် ဖက်စပ်သဘောတူစာချုပ်(မူကြမ်း) အပေါ် ဥပဒေရှုထောင့်မှလေ့လာသုံးသပ်၍ အောက်ပါအတိုင်း အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း) အပိုဒ် ၁.၀၁ တွင် ပါရှိသည့် အဓိပ္ပါယ်ဖွင့်ဆိုချက်ဖြစ်သော ကုန်းလမ်း

သယ်ယူပို့ဆောင်ရေးဆောင်ရွက်မှုလုပ်ငန်းများနှင့် အပိုဒ် ၃.၀၅ မှ အပိုဒ် ၃.၀၉ အထိ ဖော်ပြထားသော လုပ်ငန်းများ ညီညွတ်မှုရှိစေရေးအတွက် ဌာနမှပြန်လည်စိစစ်သင့်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) အပိုဒ် ၂.၀၇ ရည်ညွှန်းထားသော အပိုဒ် ၁၉.၁ သည် စာချုပ်(မူကြမ်း)တွင် ပါဝင်ခြင်းမရှိ၍ ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် ၃.၀၄ တွင် မော်တော်ယာဉ်အစီး ၂၀၀ တည်ထောင်ရေးကာလ (သဘောတူညီချက်စာချုပ်ချုပ်ပြီးသုံးနှစ်) အတွင်း တင်သွင်းမည်ဟု ဖော်ပြထားရာ၊ မည်သည့်အချိန်ကာလတွင်အစီးရေမည်မျှ တင်သွင်းရမည်ဟူသော စည်းကမ်းချက်အား ထည့်သွင်းဖော်ပြရန်သင့် မသင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်။ ထို့ပြင် တင်သွင်းမည့် ယာဉ်အမျိုးအစားအလိုက် အစီးရေမည်မျှ တင်သွင်းမည်ကိုလည်း ဖော်ပြသင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၄.၀၂ တွင် စန်းရောင်နီကုမ္ပဏီလီမိတက်သည် မည်သည့်အကြောင်းကြောင့်ဖြစ်စေ ၅၇ % ခွဲဝေမှုထက်လျော့နည်းခြင်း မရှိစေရဟု ဖော်ပြထားချက်အား ဌာနမှ သတိပြုသင့်ပါသည်။ စန်းရောင်နီကုမ္ပဏီလီမိတက်သည် ငွေသားရင်းနှီးမြှုပ်နှံမှုကို ပထမနှစ် ၄၀ % စသဖြင့် ဖော်ပြထားရာ၊ ယင်းငွေသည်ခွင့်ပြုမတည်ငွေ (သို့မဟုတ်) ထည့်ဝင်မတည်ငွေ၏ ရာခိုင်နှုန်းဖြစ်သည်ဟု ရှင်းလင်းမှုမရှိပါ။ ပြည့်စုံရှင်းလင်းစွာ ဖော်ပြသင့်ပါသည်။ ထို့ပြင် ယင်းအပိုဒ်၌ "၄၀% ထည့်ဝင်မှုမှ ၂၅% အားလည်းကောင်း၊ ----- သယ်ယူပို့ဆောင်ရေးရင်းနှီးမြှုပ်နှံမှုအဖြစ် ရင်းနှီးမြှုပ်နှံမည်ဖြစ်ပြီး ကျန်သော % အား: ---------- Bus Terminal / Workshop များအတွက် ရင်းနှီးမြှုပ်နှံ

မည်ဖြစ်ပါသည်" ဟူသော ဖော်ပြထားချက်မှာ ရှင်းလင်းမှုမရှိပါသဖြင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်။ ဆက်လက်၍ ရင်းနှီးမြှုပ်နှံမှုအား တည်ဆောက်ချိန်ကာလ ၃ နှစ်အတွင်း ဆောင်ရွက်ရန်ဖော်ပြထားရာ တည်ဆောက်ချိန်ကာလသည် မည်သည့်ရက်မှစတင်ကြောင်း ဖော်ပြသင့်ပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ် ၄.၈၃ တွင် ကုမ္ပဏီမှ ထည့်ဝင်ငွေပေးသွင်းခြင်းကို ကုမ္ပဏီစတင်တည်ထောင်သည့် ၃ နှစ်အတွင်း ဆောင်ရွက်ရမည်ဖော်ပြထားရာ ကုမ္ပဏီမှ ထည့်ဝင်ငွေပေးသွင်းရမည့် အချိန်ကာလကို တိကျစွာဖော်ပြသင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် ၄.၈၆ ဒါရိုက်တာအဖွဲ့ ပထမအစည်းအဝေးကို ကုမ္ပဏီတည်ထောင်ပြီးပြီးချင်း ကျင်းပရန်ဖော်ပြထားပါသည်။ ကုမ္ပဏီတည်ထောင်ပြီးပြီးချင်းဆိုသည်မှာ သတ်မှတ်ကာလမပါရှိသဖြင့် ကုမ္ပဏီတည်ထောင်ပြီး မည်သည့်ကာလအတွင်းကျင်းပရမည်ဆိုသည့် စည်းကမ်းချက်အား ထည့်သွင်းရန်သင့် မသင့် ဌာနမှ ပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် (၆) အစုရှင်များ၏ တာဝန်ဝတ္တရားများဟု ဖော်ပြသော်လည်း စာချုပ်ဝင်များ၏ တာဝန်ဝတ္တရားများသာ ဖော်ပြသဖြင့် စာချုပ်ဝင်များ၏ တာဝန်ဝတ္တရားများဟုသာ ဖော်ပြသင့်ပါသည်။ သို့ဖြစ်ပါ၍ စာချုပ်ဝင်ဌာနအနေဖြင့် အပိုဒ် ၆.၀၁ ပါ စည်းကမ်းချက်များကို ဆောင်ရွက်နိုင်ခြင်းရှိမရှိ ကြိုတင်စိစစ်သင့်ပါသည်။ အပိုဒ် ၆.၀၁ အပိုဒ်ခွဲ (ခ)တွင် "ကုန်လမ်းပို့ဆောင်ရေးသည် ၎င်းပိုင်မြေများကို ကုမ္ပဏီလုပ်ငန်းဆောင်ရွက်ရန်အတွက် ကုမ္ပဏီအားမြေသုံးစွဲရန်ခွင့်ပြုရမည်" ဟူသော ဖော်ပြထားရာ ၎င်းပိုင်မြေများ

ဆိုသည့်စကားရပ်မှာ ကျယ်ပြန့်လွန်းသဖြင့် ဌာနမှ ပြန်လည်စိစစ်၍ အသုံးပြုခွင့် ပြုမည့်မြေကို တိကျစွာ သတ်မှတ်ဖော်ပြသင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) အပိုဒ် ၆.၀၂ အပိုဒ်ခွဲ (ဃ) တွင် "နိုင်ငံတော်အစိုးရက အပိုဒ် ၃ တွင် ဖော်ပြထားသော အစုရှယ်ယာများကို စန်းရောင်နီကုမ္ပဏီလီမိတက်က ဝယ်ယူခြင်းအား -------- တရားဝင်ဖြစ်စေမည်" ဟု ဖော်ပြထားပါသည်။ အစုရှယ်ယာဝယ်ယူခြင်းကိစ္စသည် စာချုပ်ဝင်များနှင့်သာ သက်ဆိုင်သဖြင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ ဟူသော စာလုံးအား ပယ်ဖျက်သင့်ပါသည်။ ထို့ပြင် "အပိုဒ် ၃ တွင် ဖော်ပြထားသော အစုရှယ်ယာများကို" ဟု ဖော်ပြထားရာ အပိုဒ် ၃ တွင် ရှယ်ယာကိစ္စမပါရှိဘဲ ဖက်စပ်လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခြင်းဖြစ်သဖြင့် ရည်ညွှန်းချက်အပိုဒ်များ မှန်ကန်မှုရှိစေရေးအတွက် ဌာနမှ တာဝန်ယူစိစစ်ရန်ဖြစ်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) အပိုဒ် ၇ အစုရှယ်ယာရှင်များ၏ အထွေထွေအစည်းအဝေး အပိုဒ် ၇.၀၁ တွင် "ယခင်အထွေထွေအစည်းအဝေးကျင်းပပြီး ၁၅ လထက် မကျော်ပဲ ပြက္ခဒိန်နှစ်ကို မကျော်စေဘဲ ကျင်းပရမည်" ဟု ဖော်ပြထားချက်သည် ရှင်းလင်းမှုမရှိပါ။ ရှင်းလင်းစွာ ဖော်ပြသင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ် ၇.၀၃ တွင် အစည်းအဝေးတက်ရောက်သည့် အစုရှယ်ယာရှင်များ၏ မဲအများဆုံးဖြင့်ဆုံးဖြတ်ရန်ဖော်ပြထားပါသည်။ စန်းရောင်နီကုမ္ပဏီလီမိတက်မှ အစုရှယ်ယာ ၅၇ % ရယူရန်ဖော်ပြထားချက်နှင့် အရေးကြီးသောကိစ္စရပ်များကို အစုရှင်အများစု၏ ဆန္ဒမဲအများစုဖြင့် ထည့်သွင်းဆွေးနွေး၍ ဆုံးဖြတ်ရမည်ဟု ဖော်ပြချက်တို့ကြောင့် အစည်းအဝေး ဆုံးဖြတ်

ချက်တိုင်းသည် စန်းရောင်နီကုမ္ပဏီလီမိတက်ဘက်မှ အမြဲအလေးသာမည့် သဘောရှိမည်ကို သတိပြုသင့်ပါသည်၊

(ဠ) စာချုပ်(မူကြမ်း) အပိုဒ် ၈.၁၂ တွင် မန်နေဂျင်းဒါရိုက်တာခန့်ထားရန်အတွက် စန်းရောင်နီကုမ္ပဏီလီမိတက်က ဒါရိုက်တာအဖွဲ့ထံအမည်စာရင်းတင်သွင်းခွင့်ရှိကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ ထို့ပြင် မန်နေဂျင်းဒါရိုက်တာသည်ချမှတ်သော စီးပွားရေးမဟာဗျူဟာများ၊ မူလရည်ရွယ်ချက်ပါ စီမံကိန်းများအားလုံးနှင့် စီမံအုပ်ချုပ်မှုများကို လွတ်လပ်စွာ ဆောင်ရွက်ပိုင်ခွင့်ရှိကြောင်း ဖော်ပြထားရာ ဒါရိုက်တာအဖွဲ့၏သဘောတူညီမှုအရဆောင်ရွက်ရန်သင့် မသင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း) အပိုဒ် ၈.၁၄ တွင် မန်နေဂျင်းဒါရိုက်တာက အချိန်မရွေး အစည်းအဝေးခေါ်နိုင်ကြောင်း ဖော်ပြထားပါသည်။ ဌာနအနေဖြင့် ၎င်းတို့ခေါ်မှသာ အစည်းအဝေးတက်ရောက်ရမည်ဖြစ်ပါ၍ ဌာနလိုအပ်ချက်နှင့်အညီ စိစစ်သင့်ပါသည်၊

(ဍ) စာချုပ်(မူကြမ်း) အပိုဒ် ၈.၁၉ တွင် ဒါရိုက်တာအဖွဲ့ဝင်အားလုံး၏ သဘောတူညီချက်ရရှိမှဆောင်ရွက်နိုင်ကြောင်း ဖော်ပြထားသဖြင့် ကျန်ကိစ္စများ တွင် ဒါရိုက်တာအဖွဲ့အစည်းအဝေး၌ စန်းရောင်နီကုမ္ပဏီလီမိတက်က မဲသာနိုင်သည်ကို ဌာနက သတိပြုသင့်ပါသည်၊

(ဎ) စာချုပ်(မူကြမ်း) အပိုဒ် ၁၄.၀၁ တွင် "မြေငှားရမ်းထားသည့် အနှစ် ၃၀ အနက်မှ နောက်ဆုံး ၅ နှစ်တွင် အကျိုးခံစားခွင့် ၃% ---------- ကို ထုတ်ပေး

ပြီး" ဟု ဖော်ပြထားရာ ယင်း ၃% ကို မည်သူက ထုတ်ပေးရန်တာဝန်ရှိပြီး မည်သူက ရရှိမည်ကို ရှင်းလင်းစွာ ဖော်ပြသင့်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း) အပိုဒ် ၂၃.၀၁ တွင် စာချုပ်အတည်ဖြစ်ခြင်းပါရှိပြီးဖြစ်၍ စာချုပ် (မူကြမ်း) အပိုဒ် ၁၉ အတည်ပြုခြင်းအား ပယ်ဖျက်သင့်ပါသည်၊

(တ) စာချုပ်(မူကြမ်း) အပိုဒ် ၂၃ စာချုပ်အတည်ဖြစ်ခြင်းတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီး သက်သေရှေ့မှောက်တွင်စာချုပ်ဝင်နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသောနေ့ဟု ဖော်ပြထားပါသည်။ အပိုဒ် ၂.၀၇ အာဏာသက်ရောက်သည့်နေ့ဆိုသည်မှာ အပိုဒ် ၁၉.၁ ပါ ပြဋ္ဌာန်းချက်နှင့်အညီ ဖက်စပ်စာချုပ်လက်မှတ်ရေးထိုးသည့်နေ့ဟု ဖော်ပြထားသဖြင့် စည်းကမ်းချက်နှစ်ခု ညီညွတ်မှုမရှိပါ။ သို့ဖြစ်ပါ၍ ဌာနအနေဖြင့် စည်းကမ်းချက်များညီညွတ်မှုရှိစေရန် ပြန်လည်စိစစ်သင့်ပါသည်၊

(ထ) စာချုပ်(မူကြမ်း) အပိုဒ် ၂၅ စာချုပ်ရပ်စဲခြင်းဟု ဖော်ပြထားပါသည်။ ရပ်စဲခြင်းဟူ၍ အပိုဒ် ၁၉.၀၃, ၁၉.၀၄, ၁၉.၀၅ တွင်လည်း ဖော်ပြထားသဖြင့် ယင်းအပိုဒ်များကို အပိုဒ် ၂၅ တွင် တစ်ပေါင်းတည်း ဖော်ပြသင့်ပါသည်။ ထို့ပြင် အပိုဒ် ၂၅-၁(ခ)တွင် မလွန်ဆန်နိုင်သောဖြစ်ရပ်(၆)လကျော်လွန်ပြီး ဆက်တိုက်ဖြစ်ပေါ်ပါက စာချုပ်ရပ်စဲနိုင်ကြောင်း ဖော်ပြထားပြီး အပိုဒ် ၁၉-၀၅ တွင် မလွန်ဆန်နိုင်သော ဖြစ်ရပ်သည် ရက်ပေါင်း ၃၀ အထိ ရှည်ကြာခဲ့ပါ က စာချုပ်ရပ်စဲနိုင်ကြောင်း ဖော်ပြထားရာ စည်းကမ်းချက်များထပ်နေပြီး ကာလများကွဲပြားနေ၍ စည်းကမ်းချက်များ မထပ်စေရေးအတွက် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဒ) စာချုပ်(မူကြမ်း)ပါ မြန်မာစာအရေးအသားမှာ ချောမွေ့မှုမရှိပါသဖြင့် ဌာန မှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဓ) လိုအပ်သောနေရာတွင် မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်။

၄။ ရည်ညွှန်းချက်ပါစာနှင့်အတူ ပူးတွဲပေးပို့လာသော သင်းဖွဲ့မှတ်တမ်း(မူကြမ်း)နှင့် သင်းဖွဲ့စည်းမျဉ်း(မူကြမ်း)တို့အား ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည် -

(က) သင်းဖွဲ့မှတ်တမ်း(မူကြမ်း) အပိုဒ် ၁၁ တွင် သတ်မှတ်မတည်ငွေရင်းဖော်ပြထားပါသည်။ ထည့်ဝင်ပြီးငွေရင်း (Paid - up Capital) ကို ခေါင်းစဉ်ဖြင့် ဖော်ပြသင့်ပါသည်၊

(ခ) သင်းဖွဲ့မှတ်တမ်း(မူကြမ်း) ဇယားတွင် အစုရှယ်ယာဝင်များ လက်မှတ်ရေးထိုးထားသည်ကို တွေ့ရှိရပါသည်။ ဤရုံးအနေဖြင့် သင်းဖွဲ့မှတ်တမ်း(မူကြမ်း)ကို စိစစ်ပေးပါသည်၊

(ဂ) သင်းဖွဲ့စည်းမျဉ်း(မူကြမ်း) တွင် မတည်ရင်းနှီးငွေ (Authorized Capital) နှင့် ထည့်ဝင်ပြီးငွေ (Paid – up Capital) တို့ကို ဖော်ပြသင့်ပါသည်၊

(ဃ) သင်းဖွဲ့စည်းမျဉ်း(မူကြမ်း)ဇယားတွင် အစုရှယ်ယာဝင်များ လက်မှတ်ရေးထိုးထားသည်ကို တွေ့ရှိရပါသည်။ ဤရုံးအနေဖြင့် သင်းဖွဲ့စည်းမျဉ်း(မူကြမ်း)ကို စိစစ်ပေးပါသည်။

၅။ ဖက်စပ်ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်း(မူကြမ်း)နှင့် သင်းဖွဲ့စည်းမျဉ်း(မူကြမ်း)တို့ တွင် ဖော်ပြထားသော Share များ၊ အချက်အလက်များနှင့် ပတ်သက်သော ဖော်ပြချက်များသည် ဖက်စပ်စာချုပ်(မူကြမ်း)ပါ ဖော်ပြချက်များနှင့်ညီညွတ်ရန် လိုအပ်မည်ဖြစ်ပါသည်။

ဤမြေငှားစာချုပ်(မူကြမ်း)နှင့် ဖက်စပ်သဘောတူစာချုပ်(မူကြမ်း) တို့ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၇။ စန်းရောင်နီကုမ္ပဏီလီမိတက်သည် သက်ဆိုင်ရာနိုင်ငံ၏ ဥပဒေအရတရားဝင်ဖွဲ့စည်းထားသော ကုမ္ပဏီ ဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူများသည် တရားဝင်လွှဲအပ်ခြင်းခံရသူများ ဟုတ် မဟုတ် စသည့်အချက်များနှင့်စပ်လျဉ်း၍ ကြိုတင်စိစစ်ရန် လိုအပ်မည်ဖြစ်ပါသည်။

၈။ ဤမြေငှားစာချုပ်(မူကြမ်း)၊ ဖက်စပ်သဘောတူစာချုပ်(မူကြမ်း) နှင့် သင်းဖွဲ့စည်းမျဉ်း(မူကြမ်း)၊ သင်းဖွဲ့မှတ်တမ်း(မူကြမ်း)တို့ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ စာချုပ်မိတ္တူ(၃)စောင်စီပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(မေသီလင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

ရထားပို့ဆောင်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး



Acer/DSST/E/ Sun Co., Ltd (27-12-2013)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ စက - ၁၄/ ၁(၃) - ၃ဝ /၂ဝ၁၄( ၈ )
ရက် စွဲ ၊ ၂ဝ၁၄ ခုနှစ်၊ ဧပြီ လ ၄ ရက်

သို့

ရထားပို့ဆောင်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၏ ၂၁ - ၃ - ၂ဝ၁၄ ရက်စွဲပါ စာအမှတ်၊ ၁ / ၇၁ - ကပရ / ၂ဝ၁၄ (၉၆ဝ / င)

ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ကုန်းလမ်း ပို့ဆောင်ရေးနှင့်စန်းရောင်နီကုမ္ပဏီလီမိတက်တို့ အကျိုးတူပူးပေါင်း၍ စန်းရောင်နီကုန်းလမ်းပို့ဆောင်ရေးကုမ္ပဏီလီမိတက် အနေဖြင့် ဖွဲ့စည်းမည့် လုပ်ငန်းများ၏ ရည်ရွယ်ချက်များမှာ ခရီးသည်များ လွယ်ကူလျင်မြန်စွာ ပို့ဆောင်နိုင်ခြင်း၊ မော်တော်ယာဉ်များ၏ ကြံ့ခိုင်မှုအတွက် ပြင်ဆင်ဆောင်ရွက်ပေးနိုင်ခြင်း၊ ခရီးသွားပြည်သူများအဆင့်အတန်းမီစွာ ခရီးသွားလာနိုင်ရေးအတွက်အခြေခံအဆောက်အဦများတည်ဆောက်ပေးနိုင်ခြင်း စသည့် ကောင်းမွန်သော ရည်ရွယ်ချက်များဖြစ်သည့်အပြင် အဆိုပါ ကုမ္ပဏီ မှာလည်း ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနတွင် တရားဝင် မှတ်ပုံတင်ထားပြီး ကုန်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာနတွင် ထုတ်ကုန်သွင်းကုန်လုပ်ငန်းရှင် မှတ်ပုံတင်ကိုလည်း ဆောင်ရွက်ထားရှိကြောင်း စိစစ်တွေ့ရှိရသဖြင့် ကုန်သွယ်မှုရှုထောင့်မှ တစ်စုံတစ်ရာ သဘောထား မှတ်ချက်ပေးရန်မရှိပါကြောင်း အကြောင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး ( ကိုယ်စား)
( ဦးဟန် ၊ ရုံးအဖွဲ့မှူး )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ် ၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

\\172.16.129.11\d\Section(1)\2014 Office Letter\Aprial\Khaing\J 1.docx

၆

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်း နှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

ရထားပို့ဆောင်ရေးဝန်ကြီးဌာန
စာအမှတ် - ၄၄၉၁
နေ့စွဲ ၂၂/၄/၁၄
ဝန်ကြီးရုံး

စာအမှတ်၊အမစ-၁/၃ /၉(၁၈၀၇/၂၀၁၄)
ရက်စွဲ၊ ၂၀၁၄ခုနှစ် ဧပြီလ ၁၀ ရက်

သို့

ရထားပို့ဆောင်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ **ကုန်းလမ်းပို့ဆောင်ရေး နှင့် စန်းရောင်နီကုမ္ပဏီလီမိတက်တို့ အကျိုးတူ ပူးပေါင်း၍ စန်းရောင်နီကုန်းလမ်းပို့ဆောင်ရေး ကုမ္ပဏီလီမိတက်အဖြစ် ဆောင်ရွက်မည့် လုပ်ငန်းအဆိုပြုချက်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပေးရန် ကိစ္စ**

ရည်ညွှန်းချက်။ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၏ ၂၁-၃-၂၀၁၄ ရက်စွဲပါစာအမှတ် ၁/၇၁-ကပရ/၂၀၁၄(၉၆၀/င)

၁။ ကုန်းလမ်းပို့ဆောင်ရေးနှင့်စန်းရောင်နီကုမ္ပဏီလီမိတက်တို့ အကျိုးတူပူးပေါင်း၍ စန်းရောင်နီကုန်းလမ်းပို့ဆောင်ရေး ကုမ္ပဏီလီမိတက်အဖြစ် ဆောင်ရွက်မည့် လုပ်ငန်းအဆိုပြုချက်(မူကြမ်း)အပေါ် အောက်ပါ သဘောထားမှတ်ချက် ပေးပို့အပ်ပါသည်-

(က) အဆိုပြုချက်(မူကြမ်း)အရ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ ကုန်းလမ်းပို့ဆောင်ရေး နှင့် စန်းရောင်နီကုန်းလမ်းပို့ဆောင်ရေး ကုမ္ပဏီလီမိတက် တို့အကြား မြေငှားစာချုပ် ချုပ်ဆိုမည်ဖြစ်ပြီး၊ စာချုပ်သက်တမ်းမှာ နှစ်(၃၀)ဖြစ်ကြောင်း တွေ့ရှိရပါသည်။

(ခ) အဆိုပြုချက်(မူကြမ်း)အရ နိုင်ငံတော်၏ ဘဏ္ဍာငွေကျခံသုံးစွဲရန် ဖြစ်ပါက မိမိဌာန၏ နှစ်အလိုက် ဘတ်ဂျက်လျာထားချက်တွင် ထည့်သွင်းသတ်မှတ်ရန် လိုအပ်မည် ဖြစ်ပါကြောင်းနှင့်ငွေလုံးငွေရင်းဖြစ်ပါက အမျိုးသားစီမံကိန်းတွင် ထည့်သွင်းနိုင်ရေးအတွက် စီမံကိန်းရေးဆွဲရေးဦးစီးဌာနသို့ ဆက်လက်ပေးပို့ရန်ဖြစ်ပါသည်။

(ဂ) အဆိုပြုချက်(မူကြမ်း)အရ တင်ဒါခေါ်ယူရာတွင် နိုင်ငံတော်သမ္မတရုံးမှ ထုတ်ပြန်ထားသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများ နှင့် စီးပွားရေးလုပ်ငန်းများ လုပ်ကိုင်ခွင့်ပြုရာတွင် အစိုးရဌာန၊ အဖွဲ့အစည်းများလိုက်နာရမည့် တင်ဒါစည်းကမ်းချက်များ နှင့်အညီ ဆောင်ရွက်ရန်ဖြစ်ပါသည်။

(ဃ) အဆိုပြုချက်(မူကြမ်း)အရ မြေငှားရမ်းခနှုန်းသတ်မှတ်ထားချက် နှင့်စပ်လျဉ်း၍မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးမှုဦးစီးဌာနပြည်တွင်းအခွန်များဦးစီးဌာနတိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာ စည်ပင်သာယာရေး ကော်မတီတို့မှ သဘောထားနှင့်အညီ ဆောင်ရွက်ရန် ဖြစ်ပါသည်။

(င) အဆိုပြုချက်(မူကြမ်း)အရ စီမံကိန်းလုပ်ငန်းများ အကောင်အထည်ဖော် ဆောင်ရွက်ရာ တွင်တည်ဆဲပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ(၂၀၁၂) နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏အမိန့်ကြော်ငြာစာအမှတ်(၁/၂၀၁၃)နှင့်အညီ ဆောင်ရွက်ရန် ဖြစ်ပါသည်။

ဝ/ ၁၂.၄

(စ) အဆိုပြုချက်(မူကြမ်း)တွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ရဆားပို့ဆောင်ရေးဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးထံ လိပ်မူ၍ အဆိုပြုလျှောက်ထားခြင်း၊ အခွန်ကင်းလွတ်ခွင့် နှင့်သက်သာခွင့်များလျှောက်ထားခြင်းမှ ဥပဒေ၊ လုပ်ထုံးလုပ်နည်းများ နှင့် ညီညွတ်ခြင်းမရှိဘဲ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ(MCIL)အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်(MIC)သို့ လျှောက်ထားရန် လိုအပ်မည်ဖြစ်ကြောင်း ဖော်ပြအပ်ပါသည်။

(ဆ) အဆိုပြုချက်(မူကြမ်း)တွင် စန်းရောင်နီကုန်းလမ်းပို့ဆောင်ရေး ကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအထူးကုမ္ပဏီအက်ဥပဒေများအရ ဖက်စပ်ကုမ္ပဏီအဖြစ် ဖွဲ့စည်းတည်ထောင်မည်ဖြစ်ရာ ယင်းဖက်စပ်ကုမ္ပဏီကို ဖွဲ့စည်းတည်ထောင်ထားခြင်းမရှိသေးသည့်အတွက် ဦးအောင်ကျော်မြင့်သည် မန်နေဂျင်းဒါရိုက်တာ ဟူသော စကားရပ်အစား "အဆိုပြုဒါရိုက်တာ" ဟု ဖော်ပြလျှောက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။

(ဇ) အဆိုပြုချက်(မူကြမ်း)နှင့်အတူပူးတွဲပါဖက်စပ်သဘောတူစာချုပ်(မူကြမ်း) နှင့် ဖက်စပ်ကုမ္ပဏီဆိုင်ရာသင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်းများတွင် ကုန်းလမ်းပို့ဆောင်ရေးမှ အစုရှယ်ယာ(၄၃)ရာခိုင်နှုန်း၊ စန်းရောင်နီကုမ္ပဏီလီမိတက်မှ အစုရှယ်ယာ(၅၇)ရာခိုင်နှုန်း ထည့်ဝင်မည်ဖြစ်ကြောင်း ဖော်ပြထားရာ နိုင်ငံတော်အစိုးရ၏ အဖွဲ့အစည်းဖြစ်သော ကုန်းလမ်းပို့ဆောင်ရေးအနေဖြင့် အစုရှယ်ယာအများစု ပိုင်ဆိုင်ရန်(၅၁) ရာခိုင်နှုန်းပြည့်မီသည်အထိ ထည့်ဝင်သင့်ပါကြောင်း အကြံပြုအပ်ပါသည်။

(ဈ) အဆိုပြုချက်(မူကြမ်း)တွင် အဆိုပြုချက်နှင့်အတူအခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ လျှောက်ထားလွှာ၊ ဖက်စပ်သဘောတူစာချုပ်(မူကြမ်း)၊ မြေငှားစာချုပ်(မူကြမ်း)၊ ဖက်စပ်ကုမ္ပဏီဆိုင်ရာ သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်းပါ စည်းကမ်းသတ်မှတ်ချက်များသည် အချင်းချင်းရှေ့နောက်ညီညွတ်မှုရှိစေရန် လိုအပ်မည်ဖြစ်ပါကြောင်း အကြံပြုအပ်ပါသည်။

(ည) ~~အဆိုပြုချက်(မူကြမ်း) အပိုဒ်(ဘ)အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ မြှုပ်နှံခြင်းမဟုတ်သဖြင့် ပယ်ဖျက်သင့်ပါသည်။~~

(ဋ) ~~အဆိုပြုချက်(မူကြမ်း) အပိုဒ်(ဘ) အာမခံထားရှိခြင်းတွင်လည်း မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဟူသောစာသားကို ပယ်ဖျက်သင့်ပါသည်။~~

(ဌ) အဆိုပြုချက်(မူကြမ်း)အရ အငှားချထားခြင်းခံရသူ ဦးအောင်ကျော်မြင့် စန်းရောင်နီကုမ္ပဏီလီမိတက်ကိုယ်စား စာချုပ်ချုပ်ဆိုမည် ဖြစ်သည့်အတွက် ကုမ္ပဏီကိုယ်စား တရားဝင်လွှဲအပ်ခြင်းခံရသူဖြစ်ရန် လိုအပ်ပါသည်။

(ဍ) အဆိုပြုချက်(မူကြမ်း)တွင်ဝန်ထမ်းများ ခန့်အပ်ခြင်းဆိုင်ရာ ကိစ္စရပ်များ အလုပ်သမားရေးရာ စည်းမျဉ်းစည်းကမ်းများ နှင့်ဝပ်လျဉ်း၍ နိုင်ငံတော်၏ တည်ဆဲအလုပ်သမား ဥပဒေ၊ စည်းမျဉ်းစည်းကမ်းများနှင့် အညီ ဆောင်ရွက်ရန် ဖြစ်ပါသည်။

(ပ) အဆိုပြုချက်(မူကြမ်း)ပါမိမိဘက်မှ တာဝန်ယူဆောင်ရွက်ပေးရမည့် ကိစ္စများ၊ လုပ်ငန်းကျွမ်းကျင်မှုဆိုင်ရာ ကိစ္စရပ်များ နှင့်စပ်လျဉ်း၍ နိုင်ငံတော်၏တည်ဆဲဥပဒေ၊ နည်းဥပဒေ၊စည်းမျဉ်းစည်းကမ်းများ၊ လုပ်ထုံးလုပ်နည်းများ နှင့် ညီညွတ်မှုရှိရန် လိုအပ်မည်ဖြစ်ပါသဖြင့် သက်ဆိုင်ရာ လုပ်ငန်းအကောင်အထည်ဖော်မည့် ဌာန၊ အဖွဲ့အစည်းမှ တာဝန်ယူစိစစ်ရန် ဖြစ်ပါသည်။

၂။ အဆိုပြုချက်(မူကြမ်း) လက်မှတ်ရေးထိုးပြီးပါက မိတ္တူ(၃)စောင်ကို ဤဝန်ကြီးဌာနသို့ ပေးပို့ပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

(လဲ့လဲ့သိန်း)
ဒုတိယဝန်ကြီး

မိတ္တူကို

ကုန်းလမ်းပို့ဆောင်ရေး
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန
ရုံးလက်ခံ/မျှောစာတွဲ

၄

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရ

ဘဏ္ဍာရေးဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ဘခ-၁/၂၇၄(၂၄၇၅/၂၀၁၄)

ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ မေလ ၁၄ ရက်

သို့

ပြည်ထောင်စုဝန်ကြီး

ရထားပို့ဆောင်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည်ညွှန်းချက် ။ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၏ ၂၁-၃-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၁/၇၁-ကပရ/၂၀၁၄(၉၆၀/၄)

၁။ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ ကုန်းလမ်းပို့ဆောင်ရေးနှင့် စန်းရောင်နီကုမ္ပဏီလီမိတက်တို့ ပူးပေါင်း၍ စန်းရောင်နီကုန်းလမ်းပို့ဆောင်ရေး ကုမ္ပဏီလီမိတက်အဖြစ် ဆောင်ရွက်မည့်လုပ်ငန်းအဆိုပြုချက်အပေါ် ဤဝန်ကြီးဌာန၏ သဘောထားမှတ်ချက်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရယူရန် လိုအပ်ပြီး မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်ပါသည်။

(ခ) မြေငှားရမ်းခရငွေကို ကုန်းလမ်းပို့ဆောင်ရေး၏ သက်ဆိုင်ရာဘဏ္ဍာရေးနှစ်တွင် ရငွေအဖြစ် ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်။

(ဂ) လုပ်ငန်းအဆိုပြုချက်နှင့်ပူးတွဲပါ ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက် အပိုဒ်-၈ (ဂ၊ ဃ နှင့် င)တို့တွင် "တည်ဆောက်မှုကာလ (၁၂)လ၊ လေ့လာမှုကာလ(၆)လနှင့် ခွင့်ပြုမိန့်ရပြီးလျှင်ပြီးခြင်း လုပ်ငန်းစတင်မည်"ဟု ဖော်ပြထားပါသည်။ ဖက်စပ်သဘောတူစာချုပ်(မူကြမ်း)၏ အပိုဒ်-၄(၄-၁၂)တွင် "ခွင့်ပြုမိန့်ရရှိပြီး(၃)လ အတွင်း ရင်းနှီးမြှုပ်နှံမှုစတင်မည်ဖြစ်ပြီး တည်ဆောက်ချိန်ကာလမှာ(၃)နှစ် အတွင်း ဆောင်ရွက်ပါမည်" ဟုဖော်ပြထားပါသည်။ရှေ့နောက်ဆီလျော်မှုမရှိပါသဖြင့် ပြန်လည်စိစစ်သင့်ပါသည်။

(ဃ) အခွန်ကင်းလွတ်မှုများ၊ ခုနှိမ်မှုများနှင့် သက်သာခွင့်များနှင့်စပ်လျဉ်း၍ ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ ၂၄-၇-၂၀၁၃ ရက်စွဲပါစာအမှတ်၊ ၁၃၂၈/၂၅၃-ကင်းလွတ်/ အဖရ(၂၀၁၃)အရ ပြည်ထောင်စုအစိုးရအဖွဲ့သို့ ကိစ္စရပ်တစ်ခုချင်း (Case by Case) အလိုက် အခွန်ကင်းလွတ်ခွင့်ပြုရန် တင်ပြတောင်းခံသွားရမည်ဖြစ်ပြီး အပိုဒ်(၁၇)ပါ ကင်းလွတ်ခွင့်၊ သက်သာခွင့်များနှင့် ပတ်သက်၍ မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုချက်များနှင့်အညီ လိုက်နာဆောင်ရွက်သွားရမည်ဖြစ်ပါသည်။

(ဃ) ကုန်းလမ်းပို့ဆောင်ရေးနှင့် စန်းရောင်နီကုမ္ပဏီလီမိတက်တို့ မြေငှားရမ်းခြင်း စာချုပ်ကို သီးခြားချုပ်ဆိုမည်ဖြစ်ရာ ၎င်းစာချုပ်ပေါ်တွင် ကျသင့်သည့် တံဆိပ်ခေါင်းခွန်မှာ မြန်မာနိုင်ငံတံဆိပ်ခေါင်းအက်ဥပဒေ၏ နောက်ဆက်တွဲဇယား ၁၊ အမှတ်စဉ် ၃၅(ဉ)ပါ အငှားစာချုပ်မှာ သုံးနှစ်ထက်ကျော်လွန်သော ကာလအပိုင်းအခြားဖြစ်သည့်အတွက် ပျမ်းမျှရနှစ်စဉ်ငှားရမ်းခ (average annual rent)၏ ၃% ကျသင့်မည်ဖြစ်ပါကြောင်းနှင့် အခြားအခွန်ဆိုင်ရာကိစ္စရပ်များနှင့်စပ်လျဉ်း၍ တည်ဆဲ အခွန်ဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းနှင့် အမိန့်ကြော်ငြာစာများပါ ပြဋ္ဌာန်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ပါသည်။

၂။ လိုအပ်သလိုဆောင်ရွက်နိုင်ပါရန် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ဒေါက်တာလင်းအောင် ၊ ဒုတိယဝန်ကြီး)

မိတ္တူကို-

မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်
ရသုံးမှန်းခြေငွေစာရင်းဦးစီးဌာန
ပြည်တွင်းအခွန်များဦးစီးဌာန
အကောက်ခွန်ဦးစီးဌာန

